# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပုံစံ(မနသ-၂)

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၅၀၃/၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးမောင်မောင်ဦး

(ခ) အဘအမည် ဦးအန်ကြီး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်)၀၀၈၀၉၃

(ဃ) နေရပ်လိပ်စာ အမှတ် ၂၆၊ ဗောတိကလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အာရှသမာဓိကုမ္ပဏီလီမိတက်
( Asian Just Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေတိုင်းအမှတ်(၄၂)၊ မြေကွက်အမှတ်(၁၆၀)၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၂၉.၂၀) သန်း (ကျပ်နှစ်ဆယ့်ကိုးသန်းနှင့်နှစ်သိန်းတိတိ)

ကျော်အောင်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့် ကြော်ငြာစာအမှတ်၊ ၅၄ /၂၀၀၁ (မနသ)
## ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပထမဝါဆိုလဆန်း ၇ ရက်
## (၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၅ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တည်ထောင်၍ ကမကထပြုသူ ဦးမောင်မောင်ဦး အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)ရှိ မြေ (၁.၆၀၇)ဧက (၆၅၀၃.၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်း၍ စက်ရုံတည်ထောင်ပြီး CMPစနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၆-၄-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁)နေ့တွင်ကျင်းပပြုလုပ်သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏(၄/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက်အရ (၁၄-၆-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၃/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၀၃/၂၀၀၁ကို ထုတ်ပေးလိုက်သည်။

၂။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု နိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည် ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပ ချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစံနစ် (Deferred Payment System)

စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာ စာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၈။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၉။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ-အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ဦးမောင်မောင်ဦးနှင့် အငှါးချထားခြင်းခံရသူ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှါးရမ်းခြင်းသဘောတူစာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ခန့်ထားခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်းစစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိအရေးယူ ခြင်းခံရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၇၀၅/၂၀၀၁ ( ၂ ၄ ၉ ၅ - ၇ )
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.)။



ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

**မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**

အမှတ်၊ ၂၂၈-၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ စီမံ/နသစ/ပစလ/၂(၁)/၂၀၀၁/(၁၁၄

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း၊</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၁-၂၀၀၁ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၇၀၁/၂၀၀၁/(၃၀၂၄-(၁))

၁။ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် မြေတိုင်းရပ်ကွက်(၄၂) မြေကွက်အမှတ်(၁၆၀) ဧရိယာ(၁.၆၀၇) ဧက ပေါ်တွင် အာရှသမာဓိကုမ္ပဏီလီမိတက် မှ C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့်သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုမြေကိုစိစစ်ရာ မြေပေါ်တွင်မြစည်းရိုးကာရံထား၍ ဆောက်လုပ်ဆဲတစ်ထပ်အဆောက်အဦး(၁)လုံး နှင့်နှစ်ထပ်ရုံးခန်း အဆောက်အဦး(၁)လုံး ရှိပြီးလုပ်ငန်း ဆောင်ရွက်ခြင်း မရှိသေးကြောင်း တွေ့ရှိရပါသည်။

၃။ အဆိုပါမြေပေါ်တွင် ဖော်ပြပါလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန်သင့်လျော်သည်ဟု ယူဆပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြနိုင်ရန်တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(သန်းကျော်၊ ညွှန်ကြားရေးမှူး၊ စီမံ+အိမ်ရာ)

<u>ဝန်ကြီးရုံး၊</u>

<u>ဆောက်လုပ်ရေးဝန်ကြီးဌာန၊</u>

မိတ္တူကို (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

(၂) လက်ထောက်ညွှန်ကြားရေးမှူး၊ ရွှေပြည်သာစက်မှုဇုန်၊

(၃) ရုံးလက်ခံ

၆။ အာရှသမာဓိကုမ္ပဏီလီမိတက်(Asia Just Co., Ltd.)တည်ထောင်၍ CMPစနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁၂/၂၀၁၁ MIC

ညွှန်ကြားရေးမှူးဒေါ်စီစီဝင်းက အဆိုပြုလုပ်ငန်းကို ရှေ့ပြည်သာစက်မှုဇုန်တွင် ဆောင်ရွက်မှာဖြစ်ပြီး အမှတ်(၁)စက်မှုဝန်ကြီးဌာနနှင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနတို့၏ သဘောထားမှတ်ချက်နှင့်အတူ အဆိုပြုချက်၏ အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ပါသည်။

သို့ဝက်

-၁၉-

| | | |
|---|---|---|
| ၆ | အာရှသမာဓိကုမ္ပဏီလီမိတက် (Asian Just Co., Ltd.) တည်ထောင်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။<br>ဆုံးဖြတ်ချက်<br>- အဆိုပြုလုပ်ငန်းအား မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဆောက်လုပ်ရေး ဝန်ကြီးဌာန |

ပြည်ထောင်စု မြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01- 282101

တယ်လီဖုန်း - ၂၇၂၈၁၂၊ ၂၇၂၁၅၈၊ ၂၇၂၃၉၁။

စာအမှတ်၊ ရက-၁/မ- ၇၀၅/၂၀၀၂ (၃ ၅ ၃-၁)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မေလ ၆ ရက်။

အကြောင်းအရာ။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ပြောင်းရွှေ့ ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စ။

ရည် ညွှန်း ချက်။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.)၏ (၂၄-၄-၂၀၀၂) ရက်စွဲပါစာ။

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၂၂-၃-၂၀၀၂)နေ့တွင် ကျင်းပသော (၁၁/၂၀၀၂) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်၏ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းအမှတ် (၄၂)မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄)သို့ ပြောင်းရွှေ့လုပ်ကိုင် ခွင့်ပြုလိုက်သည်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော (၂၇-၆-၂၀၀၁) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ- ၅၀၃/၂၀၀၁ တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄) ဟု ပြင်ဆင် လိုက်သည်။

၃။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များအဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန် ထားသည့် (၂၇-၆-၂၀၀၁)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၅၄/၂၀၀၁(မနသ)ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဥက္ကဋ္ဌ (ကိုယ်စား:)
(ဗိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

ဒါရိုက်တာ
အာရှ သမာဓိကုမ္ပဏီ လီမိတက်

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေးဝန်ကြီးဌာန၊တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၀၃ ......./၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇွန် လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးမောင်မောင်ဦး

(ခ) အဘအမည် ဦးအန်ကီး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ(နိုင်) [illegible]

(ဃ) နေရပ်လိပ်စာ အမှတ် ၂၆၊ ဗောတိကလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အာရှသမာဓိကုမ္ပဏီလီမိတက်
( Asian Just Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) [illegible] ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၂၉,၂၀) သန်း (ကျပ်နှစ်ဆယ့်ကိုးသန်းနှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စု မြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။

စာအမှတ်၊ ရက-၁/မ- ၇၀၅/၂၀၀၂ (၃ ၅ ၃-၀)
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မေလ ၇ ရက်။

အကြောင်းအရာ။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ပြောင်းရွှေ့ ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စ။

ရည် ညွှန်း ချက်။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.)၏ (၂၄-၄-၂၀၀၂) ရက်စွဲပါစာ။

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၂၂-၃-၂၀၀၂)နေ့တွင် ကျင်းပသော (၁၁/၂၀၀၂) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်၏ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းအမှတ် (၄၂)မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄)သို့ ပြောင်းရွှေ့လုပ်ကိုင် ခွင့်ပြုလိုက်သည်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော (၂၇-၆-၂၀၀၁) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ- ၅၀၃/၂၀၀၁ တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄) ဟု ပြင်ဆင် လိုက်သည်။

**၃။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များအဖြစ် ထား၍ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။**

၄။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန် ထားသည့် (၂၇-၆-၂၀၀၁)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၅၄/၂၀၀၁(မနသ)ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

ဒါရိုက်တာ
အာရှ သမာဓိကုမ္ပဏီ လီမိတက်

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေးဝန်ကြီးဌာန၊တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။




# ASIAN JUST CO.,LTD
NO.150-151,PLOT NO.64,SHWE PYI THAR INDUSTRIAL ZONE(3)
SHWE PYI THAR TOWNSHIP,YANGON,MYANMAR
PHONE: 503733/503755 FAX: 503744


သို့
ညွှန်ကြားရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၀၂ခုနှစ်၊ မေလ(၂၂)ရက်

အကြောင်းအရာ။ ။ **MICမှမြေနေရာပြောင်းလဲမှုခွင့်ပြုမိန့်မူရင်းထုတ်ယူခွင့်အတွက်ကိုယ်စားလှယ်လွှဲအပ်ခြင်း။**

ကျွန်တော်များကုမ္ပဏီအတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှမြေနေရာပြောင်းလဲမှုခွင့်ပြုမိန့်မူရင်းထုတ်ယူနိုင်ရန်အတွက်အောက်ပါပုဂ္ဂိုလ်အားကိုယ်စားလှယ်လွှဲအပ်ထားကြောင်းအကြောင်းကြားအပ်ပါသည်။

ASIAN JUST CO., LTD မှကိုယ်စားလှယ်

အမည် - DAW THIN THIN NAING
မှတ်ပုံတင်အမှတ် - J/RGN 030101
ထိုးမြဲလက်မှတ် - [signature]

2015

လေးစားစွာဖြင့်

Asian Just Co.,Ltd.
[signature]
Maung Maung Oo
Managing Director

ပြည်ထောင်စု မြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်


၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01- 282101

တယ်လီဖုန်း – ၂၇၂၉၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။


စာအမှတ်၊ ရက–၁/မ– ၇၀၅/၂၀၀၂ (  )

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ မေလ    ရက်။

အကြောင်းအရာ။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ပြောင်းရွှေ့ ခွင့်ပြုပါရန် တင်ပြခြင်း ကိစ္စ။

ရည် ညွှန်း ချက်။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.)၏ (၂၄–၄–၂၀၀၂) ရက်စွဲပါစာ။

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၂၂–၃–၂၀၀၂)နေ့တွင် ကျင်းပသော (၁၁/၂၀၀၂) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်၏ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းအမှတ် (၄၂)မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄)သို့ ပြောင်းရွှေ့လုပ်ကိုင် ခွင့်ပြုလိုက်သည်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော (၂၇–၆–၂၀၀၁) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ– ၅၀၃/၂၀၀၁ တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသအား ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာ စက်မှုဇုန်(၃) မြေကွက် အမှတ် (၁၅၀၊ ၁၅၁)၊ မြေတိုင်း အမှတ် (၆၄) ဟု ပြင်ဆင် လိုက်သည်။

၃။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက် များအဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ အာရှ သမာဓိ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန် ထားသည့် (၂၇–၆–၂၀၀၁)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၅၄/၂၀၀၁(မနသ)ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(ဗိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

ဒါရိုက်တာ

အာရှ သမာဓိကုမ္ပဏီ လီမိတက်

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေးဝန်ကြီးဌာန၊တပ်မတော်ထောက်လှမ်းရေးဌာနချုပ်ရုံး(ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

ASIAN
JUST

# ASIAN JUST COMPANY LIMITED

NO.160,SA MU 2ND STREET,SHWE PYI THAR INDUSTRIAL ZONE (1)
YANGON,MYANMAR PH: 610886, FAX : 285877

R-၁၆၆၂ ၂၄/၄ 3101 25/4 871 26/4

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်၊ AJ-MIC 020423
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဧပြီလ (၂၄)ရက်

အကြောင်းအရာ။ ။မြေနေရာပြောင်းရွှေ့ခွင့်ကိစ္စအတွက် လိုအပ်သောစာရွက်များပေးပို့တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၄-၂၀၀၂ ရက်စွဲပါ
စာအမှတ် ရက-ဂ / မ-၁၅ဂ၅ / ၂၀၀၂

အထက်ပါကိစ္စနှင့် ပတ်သတ်၍ ကျွန်တော်များ **ASIAN JUST CO.,LTD** သည် စက်မှုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာပြောင်းရွှေ့ခွင့်အတွက်လျှောက်ထားခဲ့ရာ အထက်ရည်ညွှန်းပါစာဖြင့် လူကြီးမင်းများဌါနမှ (၁၁ / ၂၀၀၂) ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ ပြောင်းရွှေ့ခွင့်ပြုကြောင်း အကြောင်းကြားလာပါသည်။

သို့ဖြစ်ပါ၍ လိုအပ်သလို ပြင်ဆင်ပေးနိုင်ရန်အတွက် ခွင့်ပြုမိန့်မူရင်း နှင့်တကွ ပြင်ဆင်ခွင့်အတွက် ငွေကျပ် ( ၅၀၀၀၀ ) တိတိအား ဘဏ်တွင်ပေးသွင်းထားသော ငွေသွင်းချလံတို့ကိုပါ ပူးတွဲ၍ ပေးပို့တင်ပြ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Asian Just Co., Ltd.

[signature]

Maung Maung Oo
Managing Director

25/4 DD(L/K)





# Asian Just Company Limited

No.160, Sa Mu 2nd Street Shwe Pyi Thar Industrial Zone (1),
Yangon, Myanmar. Tel : 610886 Fax : 285877


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ပြည်ထောင်စု မြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁- ခုနှစ်၊ အောက်တိုဘာလ ( ၁၉ ) ရက် ။

အကြောင်းအရာ။ ။ ရင်းနှီးမြှုပ် နှံမှု ပြုလုပ်မည့် မြေနေရာ ပြောင်းလဲမှု ကို တင်ပြခြင်း ။

လူကြီးမင်း ခင်ဗျား ။

၁။ ကျွန်တော် တို့ ၏ '' အာရှ သဟာဇ ကုမ္ပဏီ လီမိတက် '' သည်၊ မြန်မာ နိုင်ငံ ရင်းနှီး မြှုပ်နှံ မှု ကော်မရှင် ၏ ၂၀၀၁-ခုနှစ်၊ ဇွန်လ (၂၇) ရက်နေ့ စွဲ ပါ ခွင့်ပြု မိန့် အမှတ် မ န သ - ၅၀၃ / ၂၀၀၁ ကို ရရှိထားခဲ့ပြီး ဖြစ်ပါသည် ။

၂။ ကျွန်တော် တို့ ကုမ္ပဏီ ၏ ရင်းနှီး မြှုပ်နှံ မှု ပြုလုပ်မည့် မြေနေရာ ကို၊ မြေတိုင်း အမှတ် (၄၂)၊ မြေကွက် အမှတ် (၁၆၀) ၊ ရွှေပြည်သာ စက်မှုဇုန် ၊ ရွှေပြည်သာ မြို့နယ် ၊ ရန်ကုန်တိုင်း တွင် ၊ မြန်မာ နိုင်ငံ ရင်းနှီး မြှုပ်နှံ မှု ကော်မရှင် မှ ခွင့်ပြုခဲ့ပါသည် ။

၃။ ကျွန်တော် တို့ ကုမ္ပဏီ သည် ယခုအခါ နိုင်ငံခြား ကုမ္ပဏီ မှ၊ စက် ပစ္စည်းများ ရောက်ရှိ ပြီး၊ အထည် များ စတင် ထုတ်လုပ်နိုင်မည့် အခြေအနေ သို့ ရောက်ရှိနေပြီ ဖြစ်ပါသည် ။

၄။ ယခုအခါ လုပ်ငန်း အခြေ အနေ အရ၊ ပိုမို ကျယ်ဝန်းသော မြေနေရာ လိုအပ် ပါမည် ။ ထို့အတွက်ကြောင့်၊ ယခင်မြေနေရာ ထက် ပိုမို ကျယ်ဝန်းပြီး၊ မြေဧက (၄)ဧက ကျော် ရှိသည့်၊ မြေတိုင်း ရပ်ကွက် အမှတ် ၆၄( စက်မှု )၊ မြေကွက်အမှတ် (၁၅၀ + ၁၅၁) ၊ ရွှေပြည်သာ စက်မှုဇုန် (၃) ၊ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်တိုင်း သို့၊ လုပ်ငန်း ပြောင်းရွှေ့ လည်ပတ် ခွင့်ပြု ပါရန်၊ တင်ပြအပ်ပါသည် ။

ရိုသေ လေးစားစွာဖြင့် -



ဦး မောင်မောင် ဦး
( မန်နေးဂျင်း ဒါရိုက်တာ )
အာရှ သဟာဇ ကုမ္ပဏီ လီမိတက်
ASIAN JUST CO., LTD.

Maung Maung Oo
Managing Director



# Asian Just Company Limited

No.160, Sa Mu 2nd Street Shwe Pyi Thar Industrial Zone (1)
Yangon, Myanmar. Tel : 610886 Fax : 285877




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၂-ခုနှစ်၊ မတ်လ (၁၂) ရက် ။

အကြောင်းအရာ။ ။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာ ပြောင်းလဲမှု ကိစ္စ ။

လူကြီးမင်း ခင်ဗျား ။

၁။ ကျွန်တော်များ '' **အာရှ သမာဓိ ကုမ္ပဏီ လီမိတက်** '' ၏ ရင်းနှီးမြှုပ်နှံမှု ပြု လုပ်မည့် မြေနေရာ ပြောင်းလဲခြင်း ကိစ္စ ကို (၁၉-၁၀-၂၀၀၁)နေ့ ၌ ၊ပြောင်းလဲခွင့်ပြု ပါရန် ၊ လျှောက်ထား တင်ပြ ထားပါသည် ။

၂။ ယခုအခါတွင် ကျွန်တော်များ **ကုမ္ပဏီ** သည် ၊ မကြာမီ အချိန် ၌ နိုင်ငံခြား သို့ ကုန်ချော ပစ္စည်းများ တင်ပို့ နိုင်ရန် စီစဉ်ဆောင်ရွက် လုပ်ဆောင်လျှက် ရှိ နေ ပါသည် ။

၃။ သို့ဖြစ်ပါ၍ ၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင် မှ ခွင့်ပြုမိန့် ပေးထား ပြီးသော မြေနေရာဖြစ်သည့် မြေတိုင်းအမှတ် (၄၂) ၊ မြေကွက်အမှတ် (၁၆၀) ၊ ရွှေပြည်သာ စက်မှုဇုန် မှ မြေတိုင်းရပ်ကွက်အမှတ် (၄၆ စက်မှု ) ၊ မြေကွက် အမှတ် ( ၁၅၀ + ၁၅၁ ) ရွှေပြည်သာ စက်မှုဇုန် (၃) သို့ ၊ လုပ်ငန်း ပြောင်းရွှေ့ လည်ပတ်ခြင်း ကို ၊ ခွင့်ပြုပါရန် ၊ ထပ်မံ တင်ပြ လျှောက်ထားအပ်ပါသည် ။

ရိုသေ လေးစားစွာ ဖြင့် -



12.3.02

ဦး မောင်မောင်ဦး
ASIAN JUST CO., LTD.

Maung Maung Oo
Managing Director



ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန**
အမှတ်၊ ၂၂၈-၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

စာအမှတ်၊ ဗိမ်/နဆစ/ပစလ၂(၁)/၂၀၀၂/(၁၃၁၁)၊
ရက်စွဲ၊ ၂၀၀၂ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်၊

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ၊</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၁-၂၀၀၂ ရက်စွဲပါစာအမှတ်၊ ရက-၇/မ-၁၅၇၅/၂၀၀၁(၉၃၃၁)၊

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် အထည်ချုပ်လုပ်ငန်းကို ဆောင်ရွက်ခွင့်ရရှိထားသည့် အာရှသမာဓိကုမ္ပဏီလီမိတက်မှ မူလလုပ်ကိုင်ခွင့်ရရှိထားသည့် ရွှေပြည်သာစက်မှုဇုန် မြေတိုင်းရပ်ကွက်အမှတ်(၄၂) မြေကွက်အမှတ်(၁၆၀)မှ ရွှေပြည်သာစက်မှုဇုန်အပိုင်း(၃) မြေတိုင်းရပ်ကွက်အမှတ်(၆၄) မြေကွက်အမှတ်(၁၅၀၊ ၁၅၁)သို့ ပြောင်းရွှေ့လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အဆိုပြုမြေကွက်ကို စိစစ်ရာတွင် မြေပေါ်တွင် အုတ်တိုင်းကာ[illegible] (၂၆၅' × ၂၂၃') ရှိပင်မ(၁)ထပ်အဆောက်အဦ(၁)လုံး၊ (၁[illegible]' × ၆၀') ရှိ အခိုင်(၂)ထပ်စားသောက်ခန်းအဆောက်အဦ(၁)လုံး၊ ([illegible] × ၂၀') ရှိ အခိုင်တစ်ထပ်ဆင်ဝင်အဆောက်အဦ(၁)လုံး၊ (၆၀' × ၂၀') ရှိအခိုင်နှစ်ထပ် ရုံးခန်းအဆောက်အဦ(၁)လုံး၊ (၁၂' × ၁၀') ရှိအခိုင်တစ်ထပ်လုံခြုံရေးဂိတ်တဲ(၁)လုံး၊ စုစုပေါင်းအဆောက်အဦ(၇)လုံး ဆောက်လုပ်ထားပါသည်။

၃။ အဆိုပြုမြေပေါ်ရှိပင်မအဆောက်အဦတွင် စက်များတပ်ဆင်ထားပြီး **အာရှသမာဓိကုမ္ပဏီလီမိတက်အမည်ဖြင့်** အထည်ချုပ်လုပ်ငန်းကိုစမ်းသပ်လုပ်ကိုင် **ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။**

၄။ အဆိုပါမြေပေါ်တွင် ဖော်ပြပါလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သင့်လျော်သည်ဟုယူဆပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြနိုင်ပါရန် တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(သန်းဆွေ - ညွှန်ကြားရေးမှူး၊ ဗိမာန်ခန့်ခွဲရေး+အိမ်ရာ)

<u>ဝန်ကြီးရုံး၊</u>
<u>ဆောက်လုပ်ရေးဝန်ကြီးဌာန။</u>

မိတ္တူကို - (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

(၂) စီမံကိန်း မန်နေဂျာ၊ ရွှေပြည်သာစက်မှုဇုန်၊

(၃) ရုံး လက်ခံ၊

(၄) မျှောစာတွဲ၊

# မြေ နှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ် ( မူကြမ်း )

ဤ မြေ နှင့် အဆောက် အအုံ ငှားရမ်းခြင်း သဘောတူစာချုပ် ၊ ၂၀၀၂-ခုနှစ် ၊................ လ ( ) ရက်နေ့ တွင်၊ မြေတိုင်း ရပ်ကွက် ၆၄ ( စက်မှု) ၊ မြေ ကွက်အမှတ် (၁၅၀ + ၁၅၁) ၊ ရွှေပြည်သာစက်မှုဇုန် (၃)၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့တွင် နေထိုင်သူ (နောင် တွင် "အငှားချထားသူ" ဟုခေါ် တွင်စေရမည်။ ယင်း စကားရပ်တွင် ၄င်း၏ ဆက်ခံသူများ နှင့် ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည် ) ဦးမောင်မောင်ဦး (၁၂/ ကတတ (နိုင်) ၀၀၈၀၆၃) က တစ် ဖက် နှင့်၊

ပြည်ထောင်စု မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ အရ၊ ဖွဲ့စည်း သည့်၊ ASIAN JUST COMPANY LIMITED ကို၊ ကိုယ်စားပြုသူ ဒါရိုက်တာ ဒေါ် မေသင်းရည် ( ၁၂/ လမတ (နိုင်)၀၂၁၉၂၅ ) (အမှတ် - ၂၆၊ ဇောတိကလမ်း စမ်းချောင်း မြို့နယ်၊ ရန်ကုန်မြို့ ) (နောင်တွင် "အငှားချထားခြင်း ခံရ သူ" ဟု ခေါ် တွင်စေရမည်။ ယင်းစကားရပ်တွင်၊ ၄င်း၏ ဆက်ခံသူများ နှင့် ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူ များ ပါဝင်သည် ) မှ၊ အခြား တစ်ဖက် တို့သည်၊ အောက်ပါ အတိုင်း " မြေ ငှားရမ်းခြင်း သဘောတူ စာချုပ် " ကို၊ ချုပ် ဆိုကြ ပါသည်။

## ၁။ ရည်ရွယ်ချက် ။

၁-၁။ ဤမြေ ငှားရမ်းခြင်း သဘောတူစာချုပ် တွင်၊ "အငှားချထားခြင်း ခံရ သူ"သည် ၊ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၊ အထည် ချုပ် လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ရန် ဆန္ဒ ဖြင့်၊ ရန်ကုန်မြို့ ၊ မြေတိုင်း ရပ်ကွက် ၆၄ ( စက်မှု) ၊ မြေကွက် အမှတ်(၁၅၀+၁၅၁) ၊ရွှေပြည်သာ စက်မှုဇုန် (၃)၊ ရွှေပြည်သာ မြို့နယ် တွင် တည် ရှိသော "အငှားချထား သူ" ပိုင် ( ၄.၆၃၄ ) ကေကျယ်ဝန်းသော ပူးတွဲ မြေပုံပါ မြေနေရာ နှင့် ယင်း မြေနေရာပေါ်ရှိ ပေ (၁၉၅ x ၁၄၀ ) စက်ရုံ နှင့်၊ ရုံးခန်း ကို ငှားရမ်းခြင်းဖြစ် ပါသည်။ ဤ မြေ နှင့် အဆောက်အအုံ သည်၊ "အငှားချထား သူ"၊ မှ လက်ဝယ်ရှိပြီး၊ တရားဝင် ပိုင်ဆိုင်မှု ရှိ ကြောင်း၊ တာဝန် ယူ အာမခံ ပါသည်။ သို့ဖြစ်ပါ၍၊ ဤ မြေ နှင့် အဆောက်အအုံ ငှားရမ်းခြင်း နှင့် ပတ်သက် ၍၊ အောက်ပါ သဘောတူညီချက် များကို၊ နှစ်ဦး နှစ်ဖက် ပြု လုပ်ကြပါ သည်။

## ၂။ ငှား ရမ်း ခ ။

၂-၁-။ "အငှားချထား သူ" သည်၊ အငှားချထား မည့် မြေ နေရာ ကို၊ လွှဲပြောင်း ငှားရမ်း ပေး ရန် နှင့် "အငှားချထားခြင်း ခံရသူ"သည်၊ ၄င်းမြေနေရာကို၊ ဤ ငှားရမ်းခြင်းသဘောတူစာချုပ် နှင့် အတူ၊ ပူးတွဲ ဖော်ပြထား သောမြေ နှင့်အဆောက်အအုံ ( နောင် တွင် " အငှားချ ထားမည့် မြေ နေရာ " ဟု၊ ခေါ် တွင်စေရမည် ။ ) ကို သုံးစွဲ နိုင် သော အခွင့်အရေး နှင့် အတူ၊ ဤ မြေ ငှားရမ်းခြင်း သဘောတူ စာချုပ် ၏ အပိုဒ် ( ၇ ) တွင် ဖော်ပြပါ ရှိ သည့် နေ့ မှ စတင်ပြီး၊ ကနဦး ( ၁၀ ) နှစ် နှင့် (၅) နှစ် ၊( ၂ ) ကြိမ်စီ ဖြင့်၊ သက်တမ်းတိုးမြင့် သည့် ကာလ အထိ ၊ မြေ ဧရိယာ( ၁.၆၀၇ ) ကေ ကို၊ ငှားရမ်းခြင်းဖြစ်ပါသည်။

၂-၂-။ ဤမြေ နှင့်အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ် ချုပ်ဆိုသည့် နေ့ မှ စတင်ပြီး၊ လုပ်ငန်းများ ကို၊ အကောင်အထည် ဖော် ဆောင်ရွက် မည်ဖြစ်ပါသည် ။ စက် ပစ္စည်း များ တပ်ဆင်ခြင်း ကာလ(၂)လ အတွက် ငှားရမ်းခ သတ်မှတ်ခြင်းမပြုရပါ။ စက်ပစ္စည်း များ တပ် ဆင်ပြီးနောက်၊ တစ် လလျှင်ကျပ် (၂၀၀,၀၀၀ ) ( ကျပ် နှစ်သိန်း တိတိ ) နှုန်းဖြင့် ငှားရမ်းခ ကို၊ သတ်မှတ် ပေးချေရပါမည် ။

၂-၃-။ နှစ်စဉ် ငှားရမ်းခ ကို ၊ အငှားချထားခြင်းခံရသူ က ၊ အငှားချထားသူ သို့ ပေး ချေရာတွင် ဘဏ္ဍာရေးနှစ် စာရင်းပိတ် သည် အထိ ၊စောင့်ဆိုင်းခြင်း မပြုဘဲ ၊ တစ်လလျှင် ကျပ် ၂၀၀,၀၀၀ (ကျပ် နှစ် သိန်း တိ တိ) နှုန်း ဖြင့် ၊ သုံးလ လျှင် တစ်ကြိမ် ကြို တင် ၍ ၊ ပေးဆောင်ရ မည်ဖြစ်ပါ သည် ။ ယင်းသို့ ပေးဆောင်ရာတွင် ၊ ပထမ လ၏ ( ၁၅ )ရက် နေ့ မတိုင် မီ ၊ ငှား ရမ်း ခ ကို ၊ မပျက်မကွက် ၊ ပေးချေ ရပါမည် ။

## ၃။ အငှား ချ ထားခြင်း ခံရသူ များ ၏ တာဝန် များ ။

၃-၁-။ အငှားချ ထားခြင်းခံရသူ သည် ၊ အငှားချထားသူ နှင့် ရှင်းလင်းစွာ ပြုလုပ်ထားသော၊ ဆောင်ရွက် ပေးရန် တာဝန် များမှာ **အောက် ပါအတိုင်းဖြစ် သည်။**

(က) ငှားရမ်းသည့် ကာလများ အတွက်၊ ငှားရမ်းခများ ကို သတ်မှတ် သဘောတူ ထားသော နေ့ရက် တွင်၊ပေးရမည် အပြင် ၊ သက်ဆိုင်ရာအာဏာပိုင်များ သို့ ပေးဆောင်ရမည့် ဝန်ဆောင်မှု နှင့် စပ်လျဉ်းသော၊ အခကြေးငွေ များကို လည်း ၊ အချိန် မှန် မှန် ပေးဆောင်ရမည် ။

(ခ) အငှားချထား သော မြေနေရာ နှင့် အဆောက်အအုံ ကို ၊ ထပ်ဆင့် ငှားရမ်းခြင်း ၊ လွှဲ ပြောင်းခြင်း ၊ ခွဲစိတ် ရောင်းချခြင်း ၊ စသည် တို့ ကို ၊ လုံးဝ ဆောင်ရွက်ခြင်း မပြုလုပ် ရပါ ။

(ဂ) အငှားချထား သော မြေနေရာ နှင့် အဆောက်အအုံတွင် ၊ လုပ်ငန်းများ ဆောင်ရွက် အကောင်အထည် ဖော်ပြရာ၌ ၊ပြည် ထောင်စု ၊မြန်မာ နိုင်ငံ တော်၏ တရားဝင်တည်ဆဲ ဥပဒေ များ နှင့် အညီ ၊ ကိုက်ညီမှု ရှိအောင် ၊ ဆောင်ရွက် ရမည် ။

(ဃ) စည်ပင်သာယာခွန် အပါအဝင် ၊ဖြစ်သော အလားတူ လုပ်ငန်း သဘောအရ ၊ ပေးဆောင်ရန် ရှိသော ၊အခွန် အကောက် များ ကို ၊ ပေး ဆောင် ရမည် ။

(င) အငှားချထားသောမြေပေါ် ရှိ၊ အဆောက်အအုံများ နှင့် လုပ်ငန်းအတွက် ၊ လိုအပ်သော အာမခံများ ကို ၊မြန်မာနိုင်ငံသား ရင်းနှီးမြှုပ် နှံ မှု ဥပဒေ နှင့်မြန်မာ့ အာမခံ ဥပဒေ များ နှင့် အညီ ၊ ထား ရှိ ရမည် ။

(စ) အငှားချ ထားခြင်း ခံရသူ သည် ၊ မိမိ လုပ်ငန်း မှ စွန့်ပစ် ပစ္စည်း ကြောင့် ၊ ပတ်ဝန်းကျင်ရှိ မြေ နေရာ ၊ ရေ နှင့် လေထု ညစ်ညမ်း မှု များ မှ ၊ ကာကွယ်ရေး အတွက် တာဝန်ယူ ပါ သည် ။

## ၄။ အငှား ချ ထား သူ ၏ တာဝန် များ ။

၄-၁-။ အငှားချ ထားသူ သည် ၊ အငှားချထား ခြင်းခံရသူ အား ဆောင်ရွက်ပေးရန်တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) အငှားချထား ခြင်းခံရသူ အနေဖြင့် ၊ ငှားရမ်းခများ ကို ပေးဆောင်နေ သည် ၊ ငှားရမ်းကာလအတွင်း ၊ အငှားချထားသော မြေ နှင့် အကျုံးဝင်သည့် အရာ များ နှင့် အဆောက်အအုံ ကို ၊ငြိမ်းချမ်းစွာ ၊ အေးဆေး စွာ နှင့် အနှောင့် အယှက် ကင်းစွာ တို့ဖြင့် အသုံးပြု ဆောင်ရွက်ပိုင်ခွင့်ရှိစေရမည်ဖြစ်ပြီး ၊ ငှားရမ်းသည့်ကာလအတွင်း ၊အငှားချထားသူ၏ သဘောဆန္ဒအရ (သို့မဟုတ်) တစ်ဦးဦး ၏ ဝင်ရောက်တောင်းဆို မှု အရ ၊ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံ သူ တို့ မှ ၊ ပါဝင် ပတ်သက်မှုများဖြင့် ၊ ဝင်ရောက် နှောင့် ယှက်ခြင်း မရှိစေရ ။

(ခ) အငှားချထားသူသည် ၊ အငှားချထားသောမြေ နှင့် ပတ်သက်သည့် ၊ ပေးဆောင်ရန်ရှိသော ၊မြေခွန်ကို ပေးဆောင်ရမည်။

## ၅။ ပြန်လည် လွှဲ ပြောင်းပေးအပ်ခြင်း ။

၅-၁-။ ငှားရမ်းသည့် ကာလ များ အတွင်း ၊ အငှားချ ထားသောမြေ နေရာနှင့် အဆောက်အအုံ ကို ၊ အငှားချထားခြင်း ခံရ သူ မှ ၊ ကောင်းမွန်စွာထိန်းသိမ်း ရမည်။ အကယ်၍ ၊ အငှား ချထား သော မြေ ပေါ်တွင် အဆောက်အအုံ ဆောက်လုပ် လိုပါက ၊ အငှားချထားသူ ၏ ကြို တင် ခွင့်ပြုချက် ဖြင့် ၊ အငှားချ ထားခြင်း ခံရသူ မှ ၊ မိမိ ၏ ကုန်ကျစရိတ် ဖြင့် ၊ ဆောက်လုပ် နိုင် သည် ။ ငှားရမ်းသည့်ကာလကုန်ဆုံးသောအခါတွင်ဖြစ်စေ ၊ (သို့မဟုတ်) ထပ်မံတိုးချဲ့ ငှားရမ်းခြင်း ကာလ ကုန်ဆုံးသော

အခါတွင်ဖြစ်စေ ၊ (သို့မဟုတ်) လုပ်ငန်းရပ်စဲသည့် အခါတွင် ဖြစ်စေ ၊ ၎င်း မြေနေရာ နှင့် ယင်း မြေ ပေါ် ရှိ ၊ အဆောက် အအုံ များ အား လုံး ကို ၊ အငှားချထားသူ ထံ သို့ ၊ အဘိုးစားနား မပါဘဲ ၊ပြန်လည် လွှဲ ပြောင် းပေးရ မည် ဖြစ် ပါသည် ။

၆။ ငှား ရမ်းခ တိုးမြှင့်ခြင်း ။

၆-၁-။ အငှားချထားသူ နှင့်အငှားချထားခြင်းခံရသူတို့သည်၊ အငှားချထားသောမြေနေရာနှင့်အဆောက်အအုံများအတွက် ငှားရမ်းခြင်းစတင်အတည်ဖြစ် သည့် နေ့ မှ စတင်၍၊ (၅) နှစ် လျှင် တစ် ကြိမ် ငှားရမ်းခနှုန်း ထားများ ကို ၊ပြီးခဲ့သော(၅) နှစ်တာကာလ၏ ငှားရမ်းခ နှုန်းများ ထက် (၁၅ % ) ထက် မပိုစေဘဲ ၊ တိုးမြှင့်ခြင်း ကို ၊ပြုလုပ်ရန် အတွက် ပြန်လည် ညှိ နှိုင်းပြင်ဆင်သတ်မှတ်ပိုင်ခွင့် ရှိစေရမည် ။

၇။ ငှား ရမ်း ခြင်း ၏ သက်တမ်း ။

၇-၁-။ ဤ မြေနေရာနှင့် အဆောက် အအုံ ငှားရမ်းခြင်း သဘောတူစာချုပ် အရ ၊ ငှားရမ်းခြင်း၏ သက်တမ်း မှာ ၊ ငှားရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့် နေ့ မှ စ၍ ၊ ကနဦး အနေဖြင့် ၊ (၁၀) နှစ်ဖြစ်ပြီး ၊ ထိုသက်တမ်းကုန်ဆုံး ပါက တစ် ကြိမ် လျှင် (၅) နှစ်စီဖြင့် (၂) ကြိမ် အထိ ၊တိုးမြှင့် ငှားရမ်းနိုင်ရေးအတွက် ၊အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူ တို့၏ နှစ်ဦး နှစ်ဖက်ညှိနှိုင်းမှုအရ ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏သဘောတူ ခွင့်ပြုချက် နှင့်အညီ ၊ ဆက်လက်ငှားရမ်းမည်ဖြစ်သည် ။

၇-၂-။ ဤ ငှားရမ်းခြင်း သဘောတူစာချုပ် ကို ၊ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုချက် ရရှိပြီး ၊ ( ၂ ) လ အတွင်း ၊ သဘောတူစာချုပ် လက်မှတ်ရေးထိုးမည်ဖြစ်ပါသည် ။

၈။ မလွှဲမရှောင် နိုင် သည့်ဖြစ်ရပ် များ ။

၈-၁-။ မလွန်ဆန်နိုင်သည့်သဘာဝအွန္တရာယ်များဖြစ်သည့် ရေကြီးခြင်း ၊ မီးလောင်ခြင်း ၊လေမုန်တိုင်းကျရောက်ခြင်း ၊ စစ်မက်ဖြစ်ပွားခြင်း နှင့် မြေ ငလျင် တုန်လှုပ်ခြင်း ၊ နှင့် အလားတူ ထိန်းချုပ်၍မရနိုင်သည့်ဖြစ်ရပ်များ၊ရန်သူမျိုး ငါးပါး ၊ (သို့မဟုတ်) မည်သည့် ဘက်က မျှ ကြိုးစား အားထုတ် ဆောင်ရွက်မှုဖြင့် တားဆီး မရနိုင်သော ဖြစ်ရပ်များကြောင့် ၊ တစ်ဖက်ဖက် မှ စာချုပ်ပါတာဝန်များကို ၊ ထမ်းဆောင်ရန် ပျက်ကွက်ပါက၊ အဆိုပါ မလွှဲ မရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက် ကြောင်း ကို ၊ဖြစ်ပေါ် သည့်အချိန် မှ (၂၁) ရက်အတွင်း ၊ အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြား ရမည်။ အခြားတစ်ဖက် ကလည်း ၊မလွန်ဆန်နိုင်သည့်ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက ၊စာချုပ် ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက် လုံးတွင် မည်သည့် တာဝန် မှ မရှိစေရ ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ပေါ်ပေါက်သည့် ကာလကို ၊ စာချုပ်သက်တမ်းကာလ မှ ထုတ်နှုတ်ရန် ၊ သဘောတူကြပါသည် ။

၉။ စာချုပ် ရပ် စဲခြင်း ။

၉-၁-။ ဤ သဘောတူစာချုပ် ကို ၊ အောက်ပါ အ ခြေအနေ တစ်ရပ်ရပ် ပေါ်ပေါက်လာပါက ၊ ရပ်စဲခြင်းပြု လုပ် နိုင်သည်။

(က) လုပ်ငန်း တွင်ကြီး မားသော ၊ ဆက်တိုက် အရှုံး ပေါ် ပေါက် နေခြင်း ၊

(ခ) မြေနေရာ နှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ် တွင် ပါဝင်သော ၊ တစ်ဖက် ဖက်မှ စာချုပ်ပါ တာဝန်များ ဆောင် ရွက်ရန် ပျက်ကွက်ခြင်း ၊

(ဂ) ကြို တင်မမျှော် မှန်း နိုင်သည့်အပြင်၊ တားဆီးခြင်းမပြုလုပ်နိုင်သောမလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ( ၆ )လ ထက် ပိုမို ဖြစ်ပေါ် လာခြင်း၊

(ဃ) မြေနေရာနှင့်အဆောက်အအုံ ငှားရမ်းခြင်း သဘောတူစာချုပ် ၏ မူလ ရည်မှန်းချက်များကို၊ အကောင်အထည် ဖော် နိုင် စွမ်း မရှိခြင်း၊

၉-၂-။ သို့ သော်ငြား လည်း၊ အငှားချထားခြင်းခံရသူတို့သည်၊ ၎င်း ၏ လုပ်ငန်းများ ဆက်လက် ဆောင် ရွက် နိုင်ရန် နှင့်ပြန်လည် တည်ထောင်မှုပြု လုပ် နိုင်ရန် အတွက်၊ ဤ သဘောတူစာချုပ် ပါ ၎င်း ၏ အခွင့် အရေးများ ကို ၊ခြွင်းချက် အဖြစ် သက်သာခွင့် ရရှိ စေနိုင် သည် ။ ဤသဘောတူ စာချုပ် တွင် ပါရှိသောပြ ဌာန်းချက် များ နှင့် အညီ ၊ နှစ်ဦး နှစ်ဖက် တို့ သည် ဤ သဘောတူစာချုပ် ကို ရပ်စဲ လိုပါက ၊ ရပ်စဲလိုကြောင်း အကြောင်းကြားစာကို ၊ အခြား တစ် ဖက် ထံသို့ (၃)လကြို တင် ၍၊ ပေးပို့ အသိ ပေးရမည် ။

၉-၃-။ ဤ ကဲ့သို့၊မြေနေရာနှင့်အဆောက်အအုံ ငှားရမ်းခြင်းသဘောတူစာချုပ်ရပ်စဲရာတွင်၊မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ သဘောတူ အတည်ပြု ခွင့်ပြုချက် ရရှိပြီးမှသာ လျှင်၊ စာချုပ်ရပ်စဲခွင့် သည် အတည်ဖြစ်စေရမည် ။

## ၁၀။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း ။

၁၀-၁-။ အ ကယ်၍ ၊ ဤ မြေနေရာ နှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ်ပါအချက်အလက်များနှင့်ပတ်သက်ပြီး၊ အကောင်အထည် ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပာယ်လွဲမှားမှု ကြောင့်ဖြစ်စေ၊ အငြင်းပွားမှုများဖြစ်ပေါ်လာပါက၊ သဘောတူ စာချုပ် တွင်၊ လက်မှတ်ရေး ထိုးထား သည့် နှစ်ဦး နှစ်ဖက် စလုံး မှ ညှိနှိုင်း ဆွေးနွေး ခြင်းဖြင့် ၊အငြင်းပွားမှု များ ကို၊ပြေလည်ငြိမ်းအေး စေနိုင်သည် ။ နှစ်ဦးနှစ်ဖက်အကျေအလည် ညှိနှိုင်း ဆွေးနွေး၍ မရရှိ ခဲ့ပါက ၊မြန်မာနိုင်ငံအတွင်း၌၊ နှစ်ဦး နှစ်ဖက် အတွက်၊ ခုံသမာဓိလူကြီးတစ်ဦးစီငှားရမ်းပြီး ၊ ညှိနှိုင်းဆွေးနွေးခွင့် ရှိသည်။ နှစ်ဦး နှစ်ဖက်မှ တင် မြှောက်ထားသော ခုံသမာဓိလူ ကြီး များမှ ၊အငြင်းပွားမှုများ ကို ၊ ပြေလည်အောင်ဖြေရှင်းပေးနိုင်ခြင်းမရှိခဲ့ပါက၊အဆိုပါ ခုံသမာဓိလူ ကြီး များ သဘောတူသော ခုံသမာဓိ လူကြီး၏ အဆုံးအဖြတ်ကို ၊ နှစ်ဦး နှစ်ဖက်မှ လက်ခံ ကြရမည် ။ ယင်း ခုံသမာဓိ လူကြီး၏ အဆုံးအဖြတ်မှာ အနုညာတ စီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (၁၉၄၄-ခုနှစ် ၊မြန်မာနိုင်ငံအက် ဥပဒေ အမှတ်-၄) အရဖြစ်ရပါမည်။ ခုံသမာဓိ အဖွဲ့၏ ဖြေ ရှင်းဆုံးဖြတ် ရန် နေရာ မှာ- ရန်ကုန်မြို့၊ပြည်ထောင်စုမြန်မာနိုင်ငံ တော်အတွင်း၌သာ ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ကုန်ကျစရိတ်များကို ၊ အမှုရှုံး သည့် ဘက် မှသာ ၊ ကျခံပေးဆောင်ရမည် ။

## ၁၁။ လွှမ်းမိုးသော ဥပဒေ ။

၁၁-၁-။ ဤ သဘောတူစာချုပ် ကို ၊ မြန်မာနိုင်ငံ ဥပဒေ များ နှင့် အညီ အကောင် အထည်ဖော် ဆောင်ရွက်ရမည်။ ဤ စာချုပ် ကို လွှမ်းမိုးသော ဥပဒေသည် ၊ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများဖြစ် သည် ။ ဤ စာချုပ် ပါ နှစ်ဦး နှစ်ဖက်စလုံး သည် ၊ စီရင် ပိုင်ခွင့်ရှိသော ၊ သက်ဆိုင်ရာ မြန်မာ တရားရုံး နှင့် ၊ အယူခံမှုများ ကို ၊ ကြား နာနိုင်သော တရားရုံး အားလုံး ၏ စီရင် ပိုင်ခွင့် ကို ၊ လက်ခံ ကြပါသည် ။

## ၁၂။ ကြိုတင် စည်း ကမ်း သတ်မှတ် ချက် များ ။

၁၂-၁-။ ဤ မြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ်ပါလုပ်ငန်းဆောင်ရွက်ချက်များ ကို ၊ အကောင်အထည် ဖော် ဆောင်ရွက်မှုများ အတွက် သက်ဆိုင်ရာ အစိုးရဌာန အဖွဲ့ အစည်းများ၏ ခွင့်ပြုသဘောတူညီ ချက်ရရှိပြီးမှ သာလျှင် ဆောင်ရွက်နိုင်ခွင့်ရှိကြမည် ဖြစ်သည် ။

## ၁၃။ စာချုပ်အားဖြင့်ပြန် လည်ပြင်ဆင် စေ့စပ် ညှိ နှိုင်းခြင်း ။

၁၃-၁-။ ဤမြေနေရာနှင့်အဆောက်အအုံငှားရမ်းခြင်းသဘောတူ စာချုပ်တွင် ၊ ကြိုတင်မမျှော်မှန်းနိုင်သောအခြေအနေတစ်ခုခုပေါ် ပေါက်လာသဖြင့် ၊စာချုပ် ပါ အချက်အလက် များကို ၊ ဆက်လက် ဆောင်ရွက် ရန် မဖြစ်နိုင်သော အခါ မျိုး တွင်ဖြစ်စေ ၊ လုပ်ငန်းလို အပ်ချက်အရ ၊ ဤစာချုပ် တွင်မပါဝင်သော ၊အချက်အလက်များ ပေါ်ပေါက်လာသော အခါတွင်ဖြစ်စေ ၊ နှစ်ဦး နှစ် ဖက်စလုံးမှ ၊ စေ့စပ်ညှိ နှိုင်းပြီး ၊ စာချုပ် ပါ အချက်အလက် များကို ၊ လိုအပ်သလိုပြင်ဆင်ခွင့် ရှိစေ ရမည်ဖြစ်သည်။ ဤ ကဲ့သို့ ၊ပြင်ဆင်ရာတွင် ၊မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ သဘောတူအတည်ပြု ခွင့်ပြုချက်ရရှိပြီး မှသာလျှင် ၊ အတည်ဖြစ်စေရ မည်ဖြစ်ပါသည် ။

## ၁၄။ ကိုယ်စားပြုခြင်း နှင့် အာမခံချက် ။

၁၄-၁-။ ဤမြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ်ကို ၊ ပါဝင် ချုပ်ဆိုကြသူ နှစ်ဦးနှစ်ဖက် စလုံးတို့ သည် ၊ ဤသဘောတူ စာချုပ် ချုပ်ဆိုနိုင်ရန်အတွက်၊ သက်ဆိုင်ရာဥပဒေများနှင့်အညီ၊ တရားဝင် ဖွဲ့စည်းတည်ထောင်ထားကြပြီး လျှင် ၊ ဥပဒေ အရ လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် စီးပွားရေးအရ ၊ ခိုင်မာတောင့်တင်း မှု ရှိသော သူများ ဖြစ်ကြကြောင်း အာမခံ သည် ။

## ၁၅။ ဘာသာ စကား ။

၁၅-၁-။ ဤ မြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ် ကို ၊ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များ နှင့် အညီ ၊မြန်မာဘာသာဖြင့် စာချုပ် သုံးစောင် ရေးသားပြီး လျှင် ၊ စာချုပ် နှစ်စုံ ကို ၊ နှစ်ဦး နှစ် ဖက်မှ ၊ တစ်စုံစီ ၊ ရယူထားပြီး ၊ ကျန်သောစာချုပ်တစ်စုံကို ၊ သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းထံသို့ ပေးပို့၍ ၊ စိစစ်ဆေးခြင်း နှင့် ၊ အတည်ပြုခြင်း များ ရယူရန် ပေးပို့ ရမည် ။

## ၁၆။ အကြောင်းကြား စာ ။

၁၆-၁-။ ဤ မြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ်နှင့် ပတ်သက်၍ ၊ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများ အား ၊ အောက်ဖော်ပြပါ လိပ်စာများ အတိုင်း ၊မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် ၊ စာတိုက်မှ မှတ်ပုံတင် ချောစာဖြင့်ဖြစ်စေ ၊ သို့မဟုတ် ၊ တဲလက်စ်ဖြင့်ဖြစ်စေ ၊ ဖက်စ်ဖြင့်ဖြစ်စေ ၊ နှစ်ဦး နှစ် ဖက် ဆက်သွယ် ပေးပို့ ရာ တွင် သဘောတူစာချုပ် ချုပ်စဉ်က ၊ လိပ်စာ အတိုင်း သော်လည်းကောင်း ၊ တစ်ဖက် မှ အကြောင်းကြား လာသည့် ၊ အခြား လိပ်စာဖြင့်သော်လည်းကောင်း ၊ ဆက်သွယ်ပေးပို့ ရမည် ။

လိပ်စာများ မှာ -

| | | | |
|---|---|---|---|
| (က) "အငှားချထားသူ " | (၁)အမည် | - | ဦး မောင်မောင်ဦး ။ |
| | (၂)လိပ်စာ | - | မြေ တိုင်း အမှတ် -၆၄ (စက်မှု) ၊ မြေ ကွက်အမှတ် ( ၁၅၀ + ၁၅၁ )၊ ရွှေပြည်သာ စက်မှုဇုန် (၃) ၊ ရွှေပြည်သာ မြို့နယ် ၊ ရန်ကုန်မြို့ ။ |
| | (၃)ဖုန်းအမှတ် | - | - ၀၉- ၉၉- ၂၃၈၄၅ ။ |
| | (၄)ဖက်စ် နံပါတ် | - | - |

(ခ) "အငှားချထားခြင်းခံရသူ " (၁) အမည် - ဒေါ် မေသင်းရည်
(၂) လိပ်စာ - အမှတ်-( ၂၆ ) ၊ ဇောတိက လမ်း ၊
စမ်းချောင်း မြို့ နယ် ၊ ရန်ကုန်မြို့ ။
(၃) ဖုန်းအမှတ် - ၂၈၄၈၄၉ ။
(၄) ဖက်စ် နံပါတ် - ၂၈၅၈၇၇ ။

၁၆-၂-။ ယခုကဲ့သို့ ၊ စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့် အခါတွင်၊ ပေးပို့ခြင်းကို လက်ခံရယူသည့် ဖက်မှ ၊ လက်ခံရရှိပြီး ဖြစ်ကြောင်း ၊ အကြောင်းပြန်စာ ရရှိပြီး မှသာလျှင်၊ ပေးပို့ ခြင်း ကိစ္စပြီးမြောက်ပြီး ဖြစ်သည် ဟု ၊ အတည်ပြု နိုင်သည်။ အကယ်၍ တစ်ဖက်ဖက် မှ လိပ်စာ အပြောင်းအလဲ ရှိပါက ၊ စာ ဖြင့် ရေးသားပြီး ၊ အကြောင်းကြားစာကို ၊ ပေးပို့ ရမည်။

၁၇။ **အငှားချထားသော မြေပုံ ။**

၁၇-၁-။ ဤ မြေနေရာ နှင့် အဆောက် အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ်အရ၊ အငှားချထားမည့် ဦး မောင်မောင်ဦး ပိုင်၊ ရန်ကုန်မြို့ ၊ ရွှေပြည်သာ စက်မှုဇုန် (၃) ၊ ရွှေပြည်သာ မြို့နယ် ၊ မြေတိုင်း အမှတ် ၆၄- ( စက်မှု ) ၊ မြေကွက် အမှတ် (၁၅၀ + ၁၅၁) ၊ ရှိ ၊ ( ၄.၆၃၃ ) ဧက ကျယ်ဝန်းသော မြေနေရာပြပုံ ကို နောက်ဆက်တွဲ (က) တွင်၊ ပူးတွဲဖော် ပြ ထားပါသည်။

၁၈။ **တွင်းထွက်ပစ္စည်း များ နှင့် သံယံဇာတ ပစ္စည်း များ ။**

၁၈-၁-။ ဤ မြေနေရာနှင့် အဆောက် အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ်အရ၊ ငှားရမ်းမှုပြုလုပ်ထားသော မြေနေရာတွင်၊ မည်သည့် အချိန်၌မဆို ၊ ထွက်ပေါ်ရရှိလာသောဓါတ်သတ္တုများ ၊သဘာဝတွင်းထွက်သံယံဇာပစ္စည်းများ ၊ ကျောက်မျက်ရတနာများ ၊ ကြေးနီ ၊ ရေနံ နှင့် အခြားသော တူးဖော် ရရှိလာမည် ၊ သဘာဝ အရင်းအမြစ်များ အားလုံး သည် ၊ ပြည်ထောင်စု ၊ မြန်မာ နိုင်ငံတော် အစိုးရ နှင့် သာ သက်ဆိုင်စေရ မည် ဖြစ် ပြီး ၊ အငှားချ ထားသူ အနေဖြင့် ၊ သက်ဆိုင်ရာ ဌာန သို့ အကြောင်းကြား တင်ပြရမည်ဖြစ်ပါသည် ။

၁၉။ **ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ခြင်း ။**

၁၉-၁-။ အငှားချထားခြင်းခံရသူသည် ၊ မိမိလုပ်ငန်းမှ စွန့်ပစ်ပစ္စည်းကြောင့် ၊ ပတ်ဝန်းကျင်ရှိမြေနေရာ ၊ ရေ နှင့်လေထုညစ်ညမ်းမှု များမှ ၊ ကာကွယ်ရေးအတွက် ၊ လိုအပ်သောအစီ အမံ များပြုလုပ်ထားရှိရန် ၊တာဝန်ယူပါသည် ။

၂၀။ **အထွေထွေ ။**

၂၀-၁-။ ဤမြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ် တွင်ဖော်ပြပါရှိသော ၊ အချက်အလက်များသည် ၊ သင်း ဖွဲ့မှတ်တမ်း နှင့် ၊ သင်းဖွဲ့စည်းမျဉ်း တွင်ပြဌာန်း ထားသော အချက်အလက်များ နှင့် အဓိပ္ပာယ်ကွဲလွဲခြင်း ၊ ရှေ့နောက် မညီ မညွတ် ဖြစ်နေခြင်းများဖြစ်ပေါ်လာပါက၊မြေနေရာနှင့်အဆောက်အအုံ ငှားရမ်းခြင်းသဘောတူ စာချုပ် တွင် ၊ပြဌာန်းထား သော အချက်အလက်များ ကိုသာ ၊ အတည်ဖြစ်သည် ဟု မှတ်ယူရမည်ဖြစ်ပါသည် ။

၂၁။ စာချုပ် အကျိုးသက်ရောက်မှု။

၂၁-၁-။ ဤမြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ် သည်၊ နှစ်ဦးနှစ်ဘက် စလုံး မှ၊ လက်ခံသဘောတူ ညီကြပြီး၊ လက်မှတ်ရေးထိုး သည့် နေ့ ရက် မှ စတင်၍၊ တရားဝင် အကျိုးသက်ရောက်မှု ရှိစေရပါမည် ။

ဤမြေနေရာနှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူ စာချုပ် ကို၊ ၂၀၀၂ -ခုနှစ်၊ လ၊ နေ့ ရက် တွင်၊ နှစ်ဦးနှစ်ဖက်စလုံး မှ၊ တရားဝင် ကိုယ်စားလှယ် များ က၊ တံဆိပ် ရိုက်နှိပ်ပြီး၊ လက်မှတ် ရေးထိုး သဘောတူညီကြပါသည် ။

"အငှားချထားသူ"

လက်မှတ်။
အမည် ။ ဦး မောင်မောင်ဦး
၁၂/ ကတတ (နိုင်) ၀၀၈၀၆၃ ။
လိပ်စာ ။ မြေတိုင်း ရပ်ကွက် ၆၄ ( စက်မှု)၊ မြေကွက် အမှတ် (၁၅၀+၁၅၁)၊ ရွှေပြည်သာ စက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန် မြို့၊

"အငှားချထားခြင်း ခံရ သူ"
ASIAN JUST COMPANY LIMITED
၏ ကိုယ်စား

လက်မှတ်။
အမည် ။ ဒေါ် မေသင်းရည်
၁၂ / လမတ ( နိုင် ) ၀၂၁၉၂၅ ။
လိပ်စာ ။ အမှတ် (၂၆)၊ ဇောတိက လမ်း၊ စမ်းချောင်း မြို့နယ်၊ ရန်ကုန်မြို့ ။

"အသိသက်သေ"

၁။လက်မှတ်။
အမည် ။
လိပ်စာ ။

၃။လက်မှတ်။
အမည် ။
လိပ်စာ ။

"အသိသက်သေ"

၂။လက်မှတ်။
အမည် ။
လိပ်စာ ။

၄။လက်မှတ်။
အမည် ။
လိပ်စာ ။





# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၃......../၂၀၀၁။ ၂၀၀၁ ခုနှစ်၊ ဇွန် လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးမောင်မောင်ဦး

(ခ) အဘအမည် ဦးအန်ကီး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကတတ (နိုင်) ၀၀၇၀၉၃

(ဃ) နေရပ်လိပ်စာ အမှတ် ၂၆၊ မဇ္ဈာတိကလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း အာရှသမာဓိကုမ္ပဏီလီမိတက်
( Asian Just Co., Ltd. )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေတိုင်းအမှတ် (၄၂)၊ မြေကွက်အမှတ် (၁၆၀)၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၂၉.၂၀) သန်း (ကျပ်နှစ်ဆယ့်ကိုးသန်းနှင့်နှစ်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၅ ၄ /၂၀၀၁ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၃ ခုနှစ်၊ ပထမဝါဆိုလဆန်း ၇ ရက်
(၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၅ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တည်ထောင်၍ ကမကထပြုသူ ဦးမောင်မောင်ဦး အမည်ဖြင့် မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)ရှိ မြေ (၁.၆၀၇)ဧက (၆၅၀၃.၃ စတုရန်းမီတာ)ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်း၍ စက်ရုံတည်ထောင်ပြီး CMPစနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၆-၄-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁)နေ့တွင်ကျင်းပပြုလုပ်သည့် ကုန်သွယ်မှုမူဝါဒကောင်စီ၏(၄/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး သဘောတူညီချက်အရ (၁၄-၆-၂၀၀၁)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၃/၂၀၀၁)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၀၃/၂၀၀၁ကို ထုတ်ပေးလိုက်သည်။

၂။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြု နိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ် ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက်ကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပ ချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)

စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာ စာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၈။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၉။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ-အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၁၀။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ဦးမောင်မောင်ဦးနှင့် အငှါးချထားခြင်းခံရသူ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ခန့်ထားခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်လာစေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိ ပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်းစစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိအရေးယူ ခြင်းခံရမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၇၀၅/၂၀၀၁ ( ၂၄၉၅-၈ )
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၂၇ ရက်။

ဖြန့်ဝေခြင်း-
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၉။ ဒါရိုက်တာ၊ အာရှသမာဓိ ကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.)။

အထွေထွေ အရပ်ရပ် – ၁၆

(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန် အတွက်)

အကြောင်းအရာ။ ။ <u>အာရှသမာဓိကုမ္ပဏီလီမိတက်တည်ဆောက်၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သောအာရှသမာဓိကုမ္ပဏီလီမိတက် (Asian Just Co., Ltd )တည်ဆောက်၍မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှကမကထပြုသူဦးမောင်မောင်ဦးအမည်ဖြင့်အသုံးပြုခွင့်ရရှိထားသောရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေကွက်အမှတ် (၁၆၀)၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂) ရှိ မြေ (၁.၆၀၇) ဧက (၆၅၀၃.၃ စတုရန်းမီတာ) ရှိ မြေနှင့်အဆောက်အဦကိုငှားရမ်း၍စက်ရုံတည်ဆောက်ပြီး CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား (၂၆-၄-၂၀၀၁) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂/၂၀၀၁) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး (၃၀-၅-၂၀၀၁) နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄/၂၀၀၁) ကြိမ်မြောက်အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှသဘောတူညီချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၁၄ - ၆ - ၂၀၀၁) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၃ / ၂၀၀၁) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၂/- သို့

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန် အတွက်)



၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီ အာရှသမာဓိကုမ္ပဏီလီမိတက် (Asian Just Co., Ltd ) သို့ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၂၆-၆-၂၀၀၁ ။

ဥက္ကဋ္ဌ။

* စိန် ၂၂-၆-၂၀၀

လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကက-၁/မ-၁၂၄၈/၂၀၀၁ (၁၁၅၆-၁၅)။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဇွန်လ ၇ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် တည်ထောင်၍ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အာရှသမာဓိကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တည်ထောင်၍ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂၆-၄-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃၀-၅-၂၀၀၁) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၉.၂၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို ဂျပန်နိုင်ငံ Just Co., Ltd. မှ ရှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး ကတ်နှစ်လျှင် အတိုးနှုန်း (၃)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးမောင်မောင်ဦး အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ် (၄၂)၊ မြေကွက်အမှတ်(၁၆၀)၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၆၀၇) ဧက (၆၅၀၃.၃ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။

လျှို့ဝှက်

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှ ချေးငွေ ရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိဘဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာဖြစ်ကြောင်း၊ ချေးငွေကို အဆိုပြုလုပ်ငန်းမှ ရရှိသည့်တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ပြည်ပမှဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း နှင့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) အာရှသမာဓိ ကုမ္ပဏီ လီမိတက် တည်ထောင်၍ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက် ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၂၄၈/၂၀၀၁ ( ၆ ၈ ၃ )။
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မေလ ၈ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ အာရှသမာဓိ ကုမ္ပဏီ လီမိတက် တည်ထောင်၍ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော အာရှသမာဓိကုမ္ပဏီ လီမိတက် (Asian Just Co., Ltd.) တည်ထောင်၍ C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂၆-၄-၂၀၀၁)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၂/၂၀၀၁) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၉.၂၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၁၆.၀၀)သန်း နှင့် စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၁၃.၂၀)သန်း {အမေရိကန်ဒေါ်လာ (၂.၂၀)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများကို ဂျပန်နိုင်ငံ Just Co., Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင် အတိုးနှုန်း (၃)ရာခိုင်နှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ကမကထပြုသူ ဦးမောင်မောင်ဦး အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြေတိုင်းအမှတ် (၄၂)၊ မြေကွက်အမှတ်(၁၆၀)၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၆၀၇) ဧက {၆၅၀၃.၃ စတုရန်းမီတာ} ပေါ်ရှိ မြေနှင့် အဆောက်အဦကို ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၈)ရာခိုင်နှုန်းကို C.M.P စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး ကျန်(၂) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်ထောင်ပေါင်း) | C M P ချုပ်ခနှုန်း (US $ / Dz) | ပြည်တွင်းရောင်းဈေးနှုန်း (ကျပ်/ ဒါဇင်) |
|---|---|---|---|---|
| ၁။ | Suit | ၃၅.၀ | ၃၂.၀ | ၂၇၃၀၀ |
| ၂။ | Jackets | ၁၄.၅ | ၁၇.၀ | ၁၃၃၀၀ |
| ၃။ | Pants | ၁၆.၅ | ၁၄.၀ | ၁၀၈၀၀ |
| ၄။ | Coats | ၁၄.၀ | ၁၈.၀ | ၁၃၈၀၀ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၃၀.၃၉ | ၁၁.၁၀ | ၄၁.၄၉ |
| (ခ) | အသုံးစရိတ် | ၂၉.၆၈ | ၃.၄၆ | ၃၃.၁၄ |
| (ဂ) | အသားတင်အမြတ် | ၀.၇၁ | ၇.၆၄ | ၈.၃၅ |

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ် နှင့် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၂၅.၃၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် | ၀.၃၀ သန်း |
| | | အမေရိကန်ဒေါ်လာ | ၀.၂၃ သန်း |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် | ၂.၇၆ သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၇၁)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၈)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောတားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၄။ ယင်းလုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၈)ရာခိုင်နှုန်းကို C.M.P စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး ကျန်(၂) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်. -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်ထောင်ပေါင်း) |
|---|---|---|
| ၁။ | Suit | ၃၅.၀ |
| ၂။ | Jackets | ၁၄.၅ |
| ၃။ | Pants | ၁၆.၅ |
| ၄။ | Coats | ၁၄.၀ |

၅။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၁၀)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၂၅.၃၆)ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — ကျပ် ၀.၃၀ သန်း; အမေရိကန်ဒေါ်လာ ၀.၂၃ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၂.၇၆ သန်း

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၇၁)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၈)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှု ဝန်ကြီး ဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ မှတ်ပုံတင် ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှု၊ ချေးငွေရယူမှုတို့အတွက် ဝန်ခံကတိများ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၃၂/၂၀၀၁ ကာ၊၉ ၂၆.၄.၂၀၀၁

သို့.၉ကို

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ
( မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | အာရှသမာဓိကုမ္ပဏီလီမိတက် ( Asian Just Co., Ltd.) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦး မောင်မောင်ဦး |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း |
| ၄။ | တည်နေရာ | မြေတိုင်း အမှတ်( ၄၂ )၊ မြေကွက်အမှတ်(၁၆၀) ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅။ | စုစုပေါင်း ရင်းနှီး မြှုပ်နှံမှု | ကျပ် ၂၆.၂၀သန်း( US$ ၂.၂၀သန်းအပါအဝင် |
| | - ငွေပမာဏ | ကျပ် ၁၆.၀၀သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၁၃.၂၀သန်း( US$ ၂.၂၀သန်း ) |
| ၆။ | မြေအကျောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၁.၆၀ ရဧက ( ၆၅၀၃.၃၀စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနထံမှ ကမကထပြုသူဦး မောင်မောင်ဦး အမည်ဖြင့် အသုံး ပြုခွင့်ရရှိထား သော မြေနှင့်အဆောက် အဦကိုငှား ရမ်း အသုံး ပြုမည်ဖြစ်ပါသည်။ |
| | - မြေအမျိုး အစား | စက်မှုမြေ |
| ၇။ | ထုတ်လုပ်မှု( ပုံမှန်နှစ် ) | ဒါဇင်( ၀၀၀ ) |
| | - Suits | ၃၅.၀ |
| | - Jackets | ၁၄.၅ |
| | - Pants | ၁၆.၅ |
| | - Coats | ၁၄.၀ |
| | | ၈၀.၀ ( တစ်ဦးလျှင်တစ်နှစ်ပျမ်း မျှ ၁၀၀၆ ဒါဇင်နှုန်း သာရှိပါသည်။ ) |

| | | | |
|---|---|---|---|
| ။ | ရောင်း ချမည့်နည်း စနစ် | | |
| | - CMP စနစ်အရ | ၉၀ % | |
| | - ပြည်တွင်း ရောင်း | ၂ % | |
| ၉။ | ရောင်း ဈေး နှုန်း ( ပုံမှန်နှစ်) | C.M.P စနစ်အရ ( US$ / Doz ) | ပြည်တွင်းရောင်း ( ကျပ် / ဒါဇင် ) |
| | - Suit | ၃၂.၀ | ၂၇၃၀၀ |
| | - Jackets | ၁၇.၀ | ၁၃၃၀၀ |
| | - Pants | ၁၄.၀ | ၁၀၈၀၀ |
| | - Coats | ၁၈.၀ | ၁၃၈၀၀ |
| ၁၁။ | ဝင်ငွေ ( ပုံမှန်နှစ်) | | |
| | - နိုင်ငံခြား ငွေဖြင့် | US$ ၁.၈၅ သန်း | |
| | - ကျပ် ငွေဖြင့် | ကျပ် ၃၀.၄၀ သန်း | |
| [illegible]။ | အသားတင်အမြတ် ( ပုံမှန်နှစ်) | | |
| | - နိုင်ငံခြား ငွေဖြင့် | US$ ၁.၂၇ သန်း | |
| | | ကျပ် ၀.၇၁ သန်း | |
| ၁၂။ | အရင်း ကျေကာလ | (၃) နှစ် (၁၀) လ | |
| ၁၃။ | အရင်း အနှီး အပေါ် အကျိုး အမြတ်ပြန်ပေါ် နှုန်း (IRR) | (၂၅.၃၆) ရာခိုင်နှုန်း | |
| ၁၄။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ် | | |
| | - ဝင်ငွေခွန် ( နိုင်ငံခြား ငွေဖြင့်) | US$ ၀.၂၃ သန်း | |
| | ( ကျပ် ငွေဖြင့်) | ကျပ် ၀.၃၀ သန်း | |
| | - ကုန်သွယ်လုပ်ငန်း ခွန် ( ပြည်တွင်းရောင်းရငွေ၏ ပေါ် ၁၀ %) | ကျပ် ၂.၇၆ သန်း | |
| ၁၅။ | တည်ဆောက်မှုကာလ | (၃) လ | |

လျှို့ဝှက်

ကုမ္ပဏီ ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | အာရှသမာဓိ ကုမ္ပဏီ လီမိတက်<br>(Asian Just Co., Ltd.) | ၁။ ဦးမောင်မောင်ဦး<br>(ဒါရိုက်တာ)<br>၂။ဒေါ်မေသင်းရှည်<br>(ဒါရိုက်တာ)<br>၃။ဦးချစ်လှိုင်<br>(ဒါရိုက်တာ) | အမှတ် (၂၆)၊ ဓာတိကလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။<br>အမှတ်(၂၆)၊ ဓာတိကလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်တိုင်း။<br>အမှတ်(၅၀)၊ ဗဟိုလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်း။ |

လျှို့ဝှက်

| | | |
|---|---|---|
| ၁၆။ | ဝန်ထမ်းအင်အား | ၁၁၉ ဦး |
| | -ပြည်တွင်း | ၁၁၁ ဦး |
| | -ပြည်ပ | ၈ ဦး |
| ၁၇။ | အခြား | - စက်ပစ္စည်း ကိရိယာများကို ဂျပန်နိုင်ငံ Just Company Ltd မှ ရွှေဆိုင်း ငွေပေးချေခြင်း စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီး တနှစ်လျှင် အတိုးနှုန်း ( ၃ ) ရာခိုင်နှုန်းဖြင့် ( ၄ ) နှစ် အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်း စာရင်းကို ပူးတွဲတင်ပြထားပါသည်။<br>- ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကိုလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိဘဲ ငွေချေးသူ၏တာဝန်သာဖြစ်ကြောင်း ချေးငွေကိုအဆိုပြုလုပ်ငန်းမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ ပြည်ပမှ ဝယ်ယူမည့်စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း နှင့်လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ဝန်ခံကတိပြုထားပါသည်။ |

- ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကာမကထပြုသူ ဦးမောင်မောင်ဦး အမည်ဖြင့်မြန်မ မေဖလားဘဏ်လီမိတက်ရှိ (၂၀-၁၂-၂၀၀၀) နေ့ ငွေလက်ကျန်မှာ ကျပ် (၃၀) သန်း ဖြစ်ကြောင် ေင်ပြထားပါသည်။

- ယင်းလုပ်ငန်း ဆောင်ရွက်ရန်အမှတ်(၁) စ မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိပါကြောင်း နှင့်ပုဂ္ဂလိကစ မှုလုပ်ငန်းဥပဒေနှင့်အညီ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း အကြောင်းပြန်ကြားလာပါသည်။ (ပူးတွဲ)

- မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ အဆိုပြုမြေပေါ်တွင်ခြံစည်းရိုးကာရံထား၍ ဆောက်လုပ်ဆဲ တစ်ထပ်အဆောက်အဦ (၁) လုံးနှင့်နှစ်ထပ်ရုံးခန်းအဆောက်အဦ (၁) လုံး ရှိပြီး လုပ်ငန်းဆောင်ရွက်ခြင်းမရှိသေးပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန်သင့်လျော်သည်ဟုယူဆကြောင်း သဘောထားပြန်ကြားလာပါသည်။ (ပူးတွဲ)

- ကုမ္ပဏီအနေဖြင့်အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် အထည်များအနက် Suits, Jackets နှင့် Coats တို့ထုတ်လုပ်ရန်မှာ လုပ်ဆောင်နည်းအဆင့်ဆင့် များပြားခြင်းနှင့်အသေးစိတ်စနစ်တကျလုပ် ဆောင်ရခြင်းတို့ကြောင့် နေ့စဉ်ထုတ်လုပ်နိုင်မှု ပမာဏမှာ အခြားအထည်ချုပ်ပစ္စည်းများ ထုတ်လုပ်ခြင်းယက် လျော့နည်းမည်ဖြစ်ကြောင်း

ယင်း သို့ထုတ်လုပ်မှုပမာဏ လျော့နည်း သော်လည်း ၊ ထုတ်လုပ်ခ ( Production Charges ) ရရှိမှုမှာ များ စွာရရှိခဲ့ပါကြောင်း ၊ လုပ်င လုပ်ကိုင်ရန်ကျွမ်း ကျင်လုပ်သား ( ၃၀၀ ) ဦး နှင့် အကူလုပ်သား ( ၄၅၀ ) တို့အတွက်စက်ရုံဧရိယာ မလုံလောက် ပါကကျန် ရှိ သော မြေ နေရာလွတ် များ တွင်စက်ရုံတိုး ချဲ့ဆောက်လုပ်၍လုပ်ကိုင် ဆောင်ရွက်သွား မည်ဖြစ် ကြောင်း ပြန်ကြား လာပါသည်။

- မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင် မှ ခွင့်ပြုမိန့်ထုတ် ပေး ပြီး အထည် ချုပ်လုပ်ငန်း ( ၁၄၁ ) ခုရှိပြီး ဖြစ် ပါသည်၊ ယခုအဆိုပြုလုပ်ငန်း အပါအဝင်တင်ပြထား သည့်အထည် ချုပ်လုပ်ငန်း ( ၁၉ ) ခုရှိပါသည်။

- ပူး တွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန် ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ အား ခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။



*ကျော် ၁၁၄၂၀၀၁။

ပြည်ထောင်စုမြန်မာ နိုင်ငံတော် အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီး မြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီး မြှုပ်နှံလို သူ ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# အာရှ သမာဓိ ကုမ္ပဏီ လီမိတက်

***************

PROPOSAL OF THE INVESTMENT TO MAKE

MYANMAR CITIZENS INVESTMENT IN THE

UNION OF MYANMAR

**ASIAN JUST CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇွန်လ(     )ရက် ။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုချက်များ ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍ ၊ ကျွန်တော်တို့ ၏ '' **အာရှ သမာဓိ ကုမ္ပဏီ လီမိတက်** '' **ကုမ္ပဏီ လီမိတက်** '' ASIAN JUST CO., LTD. အနေဖြင့် ၊ ပြည်ထောင်စု မြန်မာ နိုင်ငံတော် တွင် အခစား ချုပ်လုပ်မှု စနစ် ( C M P ) ဖြင့် ၊ နိုင်ငံတကာ အဆင့်မီ အထည်ချုပ် စက်ရုံ တည်ဆောက်ပြီး ၊ လုပ်ငန်းလုပ် ကိုင်နိုင်ရန် အတွက် ၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ၊ ရင်းနှီးမြှုပ် နှံမှု ခွင့်ပြုမိန့် လျှောက် ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ၊ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ဆုံးဖြတ်ချက် အရ ၊ ပြည်ထောင်စု မြန်မာနိုင်ငံ အစိုးရ အဖွဲ့ရုံး သို့ ၊ ဆက်လက်တင်ပြ နိုင်ရန် အတွက် ၊ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ ( ၂၂ ) စုံ ကို ၊ ပေးပို့ တင်ပြအပ်ပါသည် ။

ရိုသေ လေးစားစွာဖြင့် -

**ဦး မောင်မောင်ဦး**
ဒါရိုက်တာ
**အာရှ သမာဓိ ကုမ္ပဏီ လီမိတက်**
**ASIAN JUST CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ မေလ ( ၄ ) ရက် ။

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင် သို့ အဆိုပြုချက်များ စိစစ်ပေး နိုင်ရန် ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍ ၊ ကျွန်တော်တို့ ၏ ASIAN JUST CO., LTD. အနေဖြင့် ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ၊ နိုင်ငံတကာအဆင့်မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး ၊ အစား ချုပ်လုပ်မှု စံနစ်ဖြင့် ၊ လုပ်ငန်း လုပ်ကိုင် နိုင်ရန် အတွက် ၊ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ၊ ရင်းနှီး မြှုပ် နှံမှု ခွင့်ပြုမိန့် လျှောက် ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ၊ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ဆုံးဖြတ်ချက် အရ ၊ အထက် အဖွဲ့ အစည်း သို့ ၊ ဆက်လက်တင်ပြနိုင်ရန် အတွက် ၊ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ (၁၈) စုံ ကို ၊ ပေးပို့ တင်ပြအပ်ပါသည် ။

ရှိသေ လေးစားစွာဖြင့် -

ဦး မောင်မောင်ဦး
ဒါရိုက်တာ
အာရှ သမာဓိ ကုမ္ပဏီ လီမိတက်
ASIAN JUST CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇန်နဝါရီလ(၂၄)ရက် ။

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင် သို့ အဆိုပြုချက်များ စိစစ်ပေး နိုင်ရန် ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍ ၊ ကျွန်တော်တို့ ၏ ASIAN JUST CO., LTD. အနေဖြင့် ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ၊ နိုင်ငံတကာအဆင့်မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည် စက်ရုံတည်ဆောက်ပြီး ၊ အခစား ချုပ်လုပ်မှု စံနစ်ဖြင့် ၊ လုပ်ငန်း လုပ်ကိုင် နိုင်ရန် အတွက် ၊ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ၊ ရင်းနှီး မြှုပ် နှံမှု ခွင့်ပြုမိန့် လျှောက် ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ၊ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ ကို လိုအပ်သလို ၊ စိစစ် ပေးနိုင်ရန်အတွက် ၊ အဆိုပြုလွှာ (၁၃ )စုံ ကို ၊ ပေးပို့ တင်ပြအပ်ပါသည် ။

ရိုသေ လေးစားစွာဖြင့် -

ဦး မောင်မောင်ဦး
ဒါရိုက်တာ
ASIAN JUST CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇန်နဝါရီလ(၁)ရက် ။

အကြောင်းအရာ။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေး နိုင်ရန် ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍ ၊ ကျွန်တော်တို့ ၏ ASIAN JUST CO., LTD. အနေဖြင့် ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ၊ နိုင်ငံတကာအဆင့်မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည့် စက်ရုံတည်ဆောက် ပြီး ၊ အခစား ချုပ်လုပ်မှု စံနစ်ဖြင့် ၊ လုပ်ငန်း လုပ်ကိုင် နိုင်ရန် အတွက် ၊ မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ၊ ရင်းနှီး မြှုပ် နှံမှု ခွင့်ပြုမိန့် လျှောက် ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ၊ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ ကို ၊ လိုအပ်သလို ၊ စိစစ် ပေးနိုင်ရန်အတွက် ၊ အဆိုပြုလွှာ (၆)စုံ ကို ၊ ပေးပို့ တင်ပြအပ်ပါသည် ။

ရိုသေ လေးစားစွာဖြင့် -

ဦး မောင်မောင်ဦး
ဒါရိုက်တာ
ASIAN JUST CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇန်နဝါရီလ(၁)ရက် ။

အကြောင်းအရာ။ ။ မီးဘေး ကြိုတင် ကာကွယ် မှု နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရန် စီမံချက်။

၁။ အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍ ၊ ကျွန်တော်တို့ ၏ ASIAN JUST COMPANY LIMITED အနေဖြင့် ၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် တွင် ၊ နိုင်ငံတကာအဆင့် မီ အထည်ချုပ်လုပ်ငန်းထုတ်လုပ်သည့် စက်ရုံ တည်ဆောက်ပြီး ၊ အစေးချုပ်လုပ်မှုစနစ်ဖြင့်၊လုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက် ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော် တို့ ကုမ္ပဏီ ASIAN JUST COMPANY LIMITED အနေဖြင့်၊ လုပ်ငန်း ဆောင်ရွက်ရာတွင်၊ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် ၊လိုအပ်သောအစီအမံများ ၊ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နှင့် မီးဘေး ကြိုတင် ကာကွယ်မှုများ ကို ပြုလုပ်၍ ၊ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ ဝန်ခံကတိပြုပါသည်။

၃။ ထို့အပြင် ၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ မှ၊ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်း သတ်မှတ်ချက် များ ကို ၊ လိုက်နာဆောင်ရွက် ပါမည်ဟု ၊ ဝန်ခံကတိပြု ပါသည် ။

၄။ စက်ရုံ တွင် SMOKE DETECTOR များ ၊ HEAT DECTECTOR များ ကို ၊ သင့်လျော်သည့် နေရာတိုင်း တွင် ၊ တပ်ဆင်ထားပါမည်။ မီးသတ်ဗူးများ ကို ၊ အလွယ်တကူ တွေ့မြင် နိုင်သည့် နေရာများ တွင် ၊ တပ်ဆင်ထားပြီး ၊ မီး နှင့် ပတ်သက်၍ အရေးပေါ် ညွှန် ကိုလည်း ၊ သင့်လျော်မည့် နေရာတိုင်း တွင် ၊ တပ်ဆင် ထားပါမည်။ စက်ရုံ တွင် ၊ '' လုံးဝ ဆေးလိပ် မသောက်ရ'' ဟူသော ၊ စည်းကမ်းချက်ကိုလည်း ၊ ချမှတ်ထားပါမည် ။ မီးဘေးမဖြစ်ပေါ်စေရန် ၊ ကြိုတင် ကာကွယ်မှု အဖြစ် ၊ စက်ရုံ တွင်းရှိ လျှပ်စစ်ဝါယာကြိုးများ၊ သွယ်တန်းမှုများ ကိုလည်း ၊ စံနစ်တကျ ပြုလုပ်ထားရှိပါမည် ။ အရေးပေါ် အခြေအနေတွင် ၊ လျှင်မြန် စွာ ပိတ် / ဖွင့် နိုင်ရန် အတွက် ၊ လျှပ်စစ်မီး ပင်မ ခလုတ် ( မိန်း ဆွစ် ) များကို ၊ လွယ်ကူသည့် နေရာများ တွင် ထားရှိပါမည် ။ စက်ရုံ တွင် ၊ အရေးပေါ် ထွက်ပေါက်များ ထားရှိပြီး ၊ မီးငြိမ်းသတ်ရန် အတွက် ၊ ရေကန် (၁) ကန် ကိုလည်း၊ ထားရှိပါမည် ။ စက်ရုံ ရှိ လုပ်သားများ ကို ၊ မီးဘေး အန္တရာယ် ကြိုတင် ကာကွယ်ပုံ ၊ ကာကွယ်နည်း များ ကို ၊ သင်တန်းပေး ထားပါမည်။

ရှိသေ လေးစားစွာဖြင့် -

ဦး အောင်အောင်ဦး

( ဒါရိုက်တာ )

ASIAN JUST CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇန်နဝါရီလ(၁)ရက် ။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်သို့ လုပ်ငန်း ဆောင်ရွက်ခြင်း နှင့် ပတ်သက်၍ ကတိ ခံဝန်ချက် ပေးပို့ ခြင်း။

၁။ အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍၊ ကျွန်တော်တို့ ၏ ASIAN JUST CO., LTD. အနေဖြင့်၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် တွင် ၊ နိုင်ငံတကာ အဆင့် မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည့် စက်ရုံ တည်ဆောက်ပြီး၊ အခစား ချုပ်လုပ်မှု စနစ် ဖြင့်၊ လုပ်ငန်း လုပ်ကိုင်နိုင်ရန် အတွက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ ၊ ရင်းနှီးမြှုပ် နှံမှု ခွင့်ပြု မိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ် ပါသည် ။ ဤလုပ်ငန်း သည် မြန်မာ နိုင်ငံသား များ သာ လျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည် ။ ဤ လုပ်ငန်းတွင် ၊နိုင်ငံခြား မှ မည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ ဝန်ခံကတိပြုပါသည် ။

၂။ ကျွန်တော်တို့ ကုမ္ပဏီ ASIAN JUST CO., LTD. အနေဖြင့်၊ လုပ်ငန်း ဆောင်ရွက် ရာတွင်လည်း၊ ပတ် ဝန်း ကျင် ညစ်ညမ်းမှု မဖြစ်ပွား စေရန် အတွက် ၊ လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ၊နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်လုပ်ငန်းဆောင်ရွက် မည် ဖြစ်ကြောင်း ၊ မီးဘေးကြိုတင်ကာကွယ်မှုများကို ပြုလုပ်၍ ၊လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း ၊ ဝန်ခံကတိ ပြုပါသည်။

၃။ ထို့အပြင် ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ မှ၊ မြေယာ နှင့် ပတ်သက်၍ ၊ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များ ကို ၊ လိုက်နာဆောင်ရွက် ပါမည်ဟု ၊ ဝန်ခံကတိပြု ပါသည် ။

၄။ ကျွန်တော် တို့ ကုမ္ပဏီ ASIAN JUST CO., LTD အနေဖြင့် ၊ လုပ်ငန်း အတွက်၊ ပြည်ပ မှ စက်ပစ္စည်း များ၊ အရံ ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ ကို၊ ရွှေ့ ဆိုင်း ငွေပေး စနစ် ( Deferred Payment System ) ဖြင့်၊ ဝယ် ယူ တင် သွင်းပြီး၊ ပြန်လည် ပေးဆပ် သည့် အခါ၊ အဆိုပြု လုပ်ငန်း မှ ရရှိ သည် ၊ တရားဝင် နိုင်ငံခြား ငွေ ဖြင့် သာ ၊ ပေးဆပ်ပါမည် ။

၅။ ကျွန်တော် တို့ ကုမ္ပဏီ ASIAN JUST CO., LTD အနေဖြင့် ၊ လုပ်ငန်း အတွက်၊ ပြည်ပ မှ စက်ပစ္စည်း များ၊ အရံ ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ ကို ၊ ရွှေ့ ဆိုင်း ငွေပေးစနစ် ( Deferred Payment System ) ဖြင့် ၊ ရ ယူ ဆောင် ရွက် ခြင်း သည်၊ နိုင်ငံ တော် နှင့်သက်ဆိုင်ခြင်း မရှိ ဘဲ၊ငွေချေး သူ၏ တာဝန် သာ ဖြစ် ပါသည် ။

၆။ ယခု အဆိုပြု တင်ပြသည့် လုပ်ငန်း သည်၊ လုပ်ငန်း အသစ် ဖြစ် ကြောင်း ၊ ဝန်ခံ ကတိပြု ပါသည် ။

၇။ ပြည်ပ မှ ဝယ်ယူမည့် စက်ပစ္စည်းများ သည် ၊ အသစ်များဖြစ်ကြောင်း၊ ဝန်ခံ ကတိပြုပါသည် ။

ရိုသေ လေးစားစွာဖြင့် -

ဦး မောင်မောင်ဦး

( ဒါရိုက်တာ )

**ASIAN JUST CO., LTD.**

သို့

ဥက္ကဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့ ၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော် ။

ရက်စွဲ ။ ။ ၂၀၀၁-ခုနှစ် ၊ ဇန်နဝါရီလ ( ၁ ) ရက် ။

**အကြောင်းအရာ။ ။** **ပြည်ထောင်စုမြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ် နှံမှု ခွင့်ပြုမိန့် နှင့် မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ -၁၂ ၊ နှင့် ပုဒ်မ- ၁၃ တို့အရ၊ အခွန်ကင်း လွတ်ခွင့် နှင့် ၊ သက်သာခွင့် များ လျှောက်ထား ခြင်း။**

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက် ၍၊ မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အရ၊ ကျွန်တော် တို့ ၏ ASIAN JUST COMPANY LIMITED သည် ၊ ရန်ကုန် တိုင်း ၊ ရွှေပြည်သာ စက်မှုဇုန် ၊ ရွှေပြည်သာ မြို့နယ် ၊ မြေတိုင်း အမှတ် (၄၂) ၊ မြေကွက် အမှတ် (၁၆၀) ရှိ ၊ (၁.၆၀၇) ဧက အကျယ်အဝန်း ရှိသော မြေနေရာတွင် ၊ အထည်ချုပ် ထုတ်လုပ်မည့် စက်ရုံ ကို တည်ဆောက်၍၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် တွင်၊ နိုင်ငံတကာအဆင့်မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည့် လုပ်ငန်းကို ၊ အခစား ချုပ်လုပ်မှု စနစ်ဖြင့် ၊ လုပ်ကိုင်ပြီး ၊ နိုင်ငံခြား သို့ တင်ပို့ ရောင်းချ နိုင်ရန် ရည်ရွယ်၍ ၊ ခေတ်မီ နည်းပညာ ၊ စက်ကိရိယာများဖြင့် ၊ ထုတ်လုပ်ခွင့် ရရှိနိုင်ရန်၊ ပြည်ထောင်စု မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံ မှု ကော်မရှင် သို့ ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို ၊လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်တော်တို့ ၏ ကုမ္ပဏီ ASIAN JUST CO., LTD . အနေဖြင့် ၊ အထည်ချုပ် လုပ်ငန်း ဆောင်ရွက်ရာတွင်၊ လိုအပ်မည့် ကမ္ဘာ့ အဆင့်အတန်း မီ ၊ စက်ကိရိယာ များ ကို၊ ပြည်ပ မှ ဝယ် ယူပြီး ၊ အရင်းအနှီး အဖြစ် ထည့်ဝင် မည် အမေရိကန် ဒေါ် လာ( ၂၂ )သိန်း တန်ဖိုး ရှိ ၊ စက် ကိရိယာ ပစ္စည်းများ နှင့် ကုန်ကြမ်း အချို့ ကို ၊ JAPAN နိုင်ငံ ၊ *JUST CO., LTD.* မှ ''ရွှေ့ဆိုင်း ငွေ ပေးချေခြင်း စနစ်'' ( Deferred Payment System ) အရ ၊ ( ၄ )နှစ် အတွင်း ၊ ပြန်လည် ပေးဆပ်ရန် အကြွေးဖြင့် ဝယ်ယူမည် ဖြစ်ပါသည် ။

ကျွန်တော်တို့ ၏ ကုမ္ပဏီ ASIAN JUST CO., LTD . အနေ ဖြင့် ၊ ယခု အဆိုပြု လုပ်ငန်း အတွက် ၊ ရင်းနှီးငွေ စုစုပေါင်း ( ၁၆ )သန်း ကို ၊ မြန်မာ ကျပ်ငွေ ဖြင့် ၊ ရင်းနှီး ထည့်ဝင် မြှုပ် နှံကြမည် ဖြစ် ပါသည်။ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချ၍ ရရှိ လာသောအမြတ်ငွေကို လည်း ၊မြန်မာနိုင်ငံတော် အတွင်း ၊ အခြားခွင့်ပြုထားသော စီးပွားရေးလုပ်ငန်း များ တွင်၊ ပြန်လည် ရင်းနှီး မြှုပ်နှံ သွား ရန် ရည်ရွယ်ပါ သည် ။ ထုတ်လုပ် ရရှိ လာသော ကမ္ဘာ့အဆင့် အတန်း မီ အထည် များ ကို ၊ အနည်း ဆုံး ( ၉၈ % ) ( ကိုးဆယ့် ရှစ် ရာခိုင်နှုန်း ) နိုင်ငံခြား သို့ ၊ ပြန်လည် တင်ပို့ မည် ဖြစ် ပါသည် ။

သို့ဖြစ်ပါ၍ ၊ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သော အခွန် ဘဏ္ဍာငွေများ ရရှိစေရန် အတွက် သော်လည်းကောင်း၊ မြန်မာနိုင်ငံသားများ အတွက်၊ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန် အတွက် သော်လည်းကောင်း ၊ စက်မှုနည်းပညာရပ်များ တိုးပွားရရှိစေရန် အတွက် သော်လည်းကောင်း ၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုး တိုးတက်စေခြင်း အတွက် သော်လည်းကောင်း ၊ ရည်ရွယ်၍ ကျွန်တော် တို့ ၏ ASIAN JUST CO., LTD. ၏ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထား ခြင်းကို၊ လက်ခံ စဉ်းစားပေးပါရန် ၊နှင့် ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ -၁၂နှင့် ၁၃ တို့ အရ ၊ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် ၊ သက်သာခွင့်များပေးပါရန် ၊ ရိုသေလေးစား စွာ လျှောက်ထားအပ် ပါသည် ။

လျှောက်လွှာ နှင့် အတူ ၊ အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်း များ ကို ၊ ပူးတွဲ တင်ပြ အပ် ပါသည် ။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ် နှံမှုပြုလုပ်ရန် ၊ ကမကထပြု သူ၏လုပ်ငန်းဆိုင်ရာ ဆောင်ရွက်ရန် အဆိုပြုချက် ၊

(ခ) လုပ်ငန်း ပိုင်း နှင့် ငွေကြေးရေးဆိုင်ရာ အထောက်အထား များ ၊

(ဂ) ကုမ္ပဏီ ၏ သင်းဖွဲ့ မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ ၊ (မူ ကြမ်း )

(ဃ) ကုမ္ပဏီ ၏ ဘဏ္ဍာရေး အချက်အလက်များ နှင့် ပတ်သက်၍ တွက်ချက်မှု ဇယားများ ။

ရိုသေ လေးစားစွာဖြင့် လျှောက်ထားသူ-

**ဦး မောင်မောင်ဦး**

( ဒါရိုက်တာ )

ASIAN JUST CO., LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာ နိုင်ငံတော်။

ရက်စွဲ။ ။၂၀၀၁-ခုနှစ်၊ ဇန်နဝါရီလ(၁)ရက်။

**အကြောင်းအရာ။** **လက်မှတ်များ ရေးထိုးရန် အတွက်၊ ကိုယ်စားလှယ် လွှဲအပ်ခြင်း။**

အထက်ပါ အကြောင်းအရာ နှင့် ပတ်သက်၍၊ ကျွန်တော်တို့ ၏ ASIAN JUST COMPANY LIMITED အနေဖြင့်၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် တွင်၊ နိုင်ငံတကာ အဆင့်မီ အထည်ချုပ် လုပ်ငန်း ထုတ်လုပ်သည့်စက်ရုံ တည်ဆောက်ပြီး၊ အခစား ချုပ်လုပ်မှု စနစ်ဖြင့်၊ လုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ဤသို့လျှောက်ထားရာတွင်လည်းကောင်း၊ ကုမ္ပဏီ၏ ကိုယ်စား မြေ နှင့် အဆောက်အအုံ ငှားရမ်းခြင်း သဘောတူစာချုပ် ချုပ် ဆိုရာတွင် လည်းကောင်း၊ ကုမ္ပဏီ ၏ ကိုယ်စား၊ သက်ဆိုင်ရာ အစိုးရဌာန များ အားလုံး တွင်၊ ဒါရိုက်တာ ဖြစ်သူ၊ ဦးမောင်မောင်ဦး ( ၁၂ / ကတတ ( နိုင် ) ၀၀၈၀၉၃ )အား၊ လက်မှတ် ရေးထိုးခွင့်ပြုရန် ခန့်အပ်ခြင်း ကို သဘောတူပါသည်။

ရိုသေ လေးစားစွာဖြင့် -

*ဦးမောင်မောင်ဦး*
၁၂ / ကတတ ( နိုင် ) ၀၀၈၀၉၃ ။
( ဒါရိုက် တာ )
*ASIAN JUST CO., LTD.*

*ဒေါ်မေသင်းရည်*
၁၂ / လမတ ( နိုင် ) ၀၂၁၉၂၅ ။
( ဒါရိုက် တာ )
*ASIAN JUST CO., LTD.*

*ဦးချစ်လှိုင်*
၁၂ / ဒဂန ( နိုင် ) ၀၀၆၃၀၆ ။
( ဒါရိုက် တာ )
*ASIAN JUST CO., LTD.*



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ - ၁ )

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အရ-
# ရင်းနှီးမြှုပ် နှံလို သူ ၏ အဆိုပြုချက်
# ( ဥပဒေ ပုဒ်မ-၂၊ ပုဒ်မခွဲ(ဂ) နှင့် ပုဒ်မ-၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ် နှံမှု ကော်မရှင်၊
ရန်ကုန်မြို့ ။

စာအမှတ်၊
ရက် စွဲ ။ ၁ - ၁ - ၂၀၀၁ ။

ကျွန်တော် / ကျွန်မ သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့် အညီ ၊ပြည်ထောင်စု မြန်မာ နိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံ မှုပြုလုပ်လိုပါသဖြင့်၊ ခွင့်ပြုပါရန်၊ အောက်ပါအချက်အလက်များ ကို၊ ဖော်ပြ၍ လျှောက်ထားပါသည် ။

၁။ **ရင်းနှီးမြှုပ်နှံသူ ၏ -**

| | | |
|---|---|---|
| (က) | အမည် | -**ဦး မောင်မောင်ဦး** |
| (ခ) | အဖ အမည် | -ဦး အန်ကီး၊ |
| (ဂ) | နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | -၁၂ / ကတတ(နိုင်) ၀၀၈၀၆၃၊ |
| (ဃ) | နေရပ်လိပ်စာ | -အမှတ်-၂၆၊ ဇောတိက လမ်း၊ စမ်းချောင်း မြို့နယ်၊ ရန်ကုန်မြို့ ။ |
| (င) | လူမျိုး / ဘာသာ | -တရုတ် / ဗုဒ္ဓ ဘာသာ၊ |
| (စ) | အဖွဲ့အစည်း အမည် | -ASIAN JUST COMPANY LIMITED |
| (ဆ) | လုပ်ငန်း အမျိုးအစား | -အထည်ချုပ် လုပ်ငန်း၊ |
| (ဇ) | အဖွဲ့အစည်း တည်ရှိ ရာအရပ် | -မြေတိုင်းအမှတ် (၄၂)၊ မြေကွက်အမှတ် (၁၆၀)၊ ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ **ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံ လိုပါက ဖက်စပ်ပြုလုပ် မည့်သူ များ ၏ -**

| | | |
|---|---|---|
| (က) | အမည် | - |
| (ခ) | အဖ အမည် | - |
| (ဂ) | နိုင်ငံသား / အမျိုးသား မှတ်ပုံတင်အမှတ် | - |
| (ဃ) | နေရပ်လိပ်စာ | - |
| (င) | လူမျိုး / ဘာသာ | - |
| (စ) | အဖွဲ့အစည်း အမည် | - |
| (ဆ) | လုပ်ငန်း အမျိုးအစား | - |
| (ဇ) | အဖွဲ့အစည်း တည်ရှိ ရာအရပ် | - |

၃။ **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသူသည့် လုပ်ငန်းအမျိုးအစား -**

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း - အထည်ချုပ် လုပ်ငန်း

(ခ) ဝန်ဆောင်မှု လုပ်ငန်း -

၄။ **လုပ်ကိုင်မည့်စီးပွားရေး ပုံစံ -**

(က) နိုင်ငံသား နှင့် နိုင်ငံသား တို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း - လီမိတက် ကုမ္ပဏီ (နောက်ဆက်တွဲဇယား-၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသား တို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း -

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင် ဆောင်ရွက်ခြင်း -

၅။ **ဖွဲ့စည်းထားပြီးဖြစ်သည့် (သို့မဟုတ်) ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်း ပုံသဏ္ဍာန်**

(က) တစ်ဦးတည်းပိုင် -

(ခ) အစုစပ်လုပ်ငန်း -

(ဂ) လီမိတက် ကုမ္ပဏီ - ASIAN JUST CO., LTD. (နောက်ဆက်တွဲဇယား-၁)

(ဃ) သမဝါယမ အသင်း -

၆။ **ဖက်စပ် / အစုစပ်လုပ်ငန်းဖြစ်ပါက-**

(က) အစုဝင်တို့က ထည့်ဝင်မည့်အစုငွေ အမျိုးအစား နှင့် ပမာဏ -

(ခ) အကျိုးအမြတ် ခွဲဝေမည့် အမျိုးအစား -

(ဂ) အစုဝင်များ၏ တာဝန် နှင့် လုပ်ပိုင်ခွင့်များ -

၇။ **သမဝါယမ အသင်း / လီမိတက် ကုမ္ပဏီဖြစ်ပါက -**

(က) ခွင့်ပြုမတည်ငွေရင်း -ကျပ် ၅၀၀,၀၀၀,၀၀၀/- ( ကျပ် သန်း ငါးရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား -တစ်စုလျှင် ကျပ်၁၀,၀၀၀/- (ကျပ်တစ်သောင်းတိတိ) တန် ၊ သာမန်အစုရှယ်ယာ ၅၀,၀၀၀ ( ငါးသောင်း)

(ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ -ကျပ် ၁၆,၀၀၀,၀၀၀/- ( ကျပ် တစ်ဆယ့် ခြောက် သန်း တိတိ )။ တစ်စုလျှင်ကျပ်၁၀,၀၀၀/-တန်အစုရှယ်ယာ(၁,၆၀၀) သာမန်အစုရှယ်ယာ တစ်ထောင့် ခြောက်ရာ ။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အဖွဲ့အစည်း နှင့်သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်း ပမာဏ(ယခု အဆိုပြုလုပ်ငန်း အတွက်) - (ကျပ်)

| | | |
|---|---|---|
| (၁) | ငွေပမာဏ | ၁၆,၀၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများ | - |
| (၃) | အဆောက်အဦး | - |
| (၄) | မြေ | - |
| (၅) | စက်ပစ္စည်းကိရိယာများ (နောက်ဆက်တွဲဇယား-၂) | ၁၃,၂၀၀,၀၀၀ |
| | စုစုပေါင်း ထည့်ဝင်ရင်းနှီးငွေ | ၂၉,၂၀၀,၀၀၀ |

(စက်ပစ္စည်း ကိရိယာများ ကို ASIAN JUST CO., LTD. သည်၊ *JAPAN* နိုင်ငံ၊ *JUST CO., LTD.* ၏ ရွှေဆိုင်း ပေးချေခြင်း စနစ် ( Deferred Payment System ) အရ (၃)နှစ် အတွင်း၊ ပြန်ဆပ်ရန်၊ တစ်နှစ်လျှင် အတိုး (၃ %) ( သုံး ရာခိုင်နှုန်း ) ဖြင့်၊ ဝယ်ယူမည် ဖြစ်ပါသည် ။)

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် -

| | | (ကျပ်) | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (၁) | စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဘိုး | ၁၃,၂၀၀,၀၀၀ | ၂,၂၀၀,၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများ နှင့် အခြားအလားတူ ပစ္စည်း၏ တန်ဖိုး | - | - |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုး ပမာဏ | | |
| | | ၁၃,၂၀၀,၀၀၀ | ၂,၂၀၀,၀၀၀ |

(ဂ) တည်ဆောက်မှုကာလ - (၃)လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၂)လ

(င) တည်ဆောက်မှု စတင်မည့် အချိန် - မြန်မာ နိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုမိန့် ရရှိ သည့် နေ့ မှ စတင်ဆောင်ရွက် သွားပါမည် ။

၉။ ဆောင်ရွက် သွား မည့် စီးပွားရေး အဖွဲ့အစည်း နှင့် သက်ဆိုင်သော အချက်အလက်များ-

(က) လုပ်ငန်း အမျိုးအစား - C.M.P စံနစ် ဖြင့် အထည်ချုပ်လုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် ဒေသများ - မြေတိုင်းအမှတ်(၄၂) မြေကွက်အမှတ်(၁၆၀) ရွှေပြည်သာ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်မည့် ပုံ နည်းစနစ် - အခစား ထုတ်လုပ်မှု စနစ် Cutting, Making and Packaging (C.M.P)

(ဃ) နှစ်စဉ် စက်သုံး ဆီ လိုအပ်ချက်-

| | | | |
|---|---|---|---|
| ၁။ | ဒီဇယ်ဆီ | ဂါလံ | (၆,၅၀၀) |
| ၂။ | ဓာတ်ဆီ | ဂါလံ | (၃,၅၀၀) |
| ၃။ | စက်ဆီ၊ ချောဆီ | ဂါလံ | (၂၀၀) |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အား လိုအပ်ချက်-

| | | |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | (၃၅၀) ကီလို ဝပ် |
| ၂။ | ဒီဇယ်ဆီ ၊ အင်ဂျင်စက်အင်အား | (၃၅၀) H.P |
| ၃။ | ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အား | - |
| ၄။ | သဘာဝ ဓာတ်ငွေ့သုံး စက်အား | - |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား / လေအား စသည်များ ) | - |

(စ) နှစ်စဉ် ရေ လိုအပ်ချက်-

| | | |
|---|---|---|
| ၁။ | တစ်နေ့ ရေလိုအပ်ချက် | ဂါလံ (၁,၅၀၀) |
| ၂။ | တစ်နှစ် ရေလိုအပ်ချက် | ဂါလံ (၄၅၀,၀၀၀) |

| | | | |
|---|---|---|---|
| (ဆ) | နှစ်စဉ် လုပ်ငန်းသုံး ပစ္စည်း / ကုန်ကြမ်း လိုအပ်ချက် | - | (နောက်ဆက်တွဲဇယား-၃) |
| (ဇ) | အဆောက်အဦး လိုအပ်ချက် | - | ( ၁၉၅' × ၁၄၀' ) (စက်ရုံ) နှင့် (ရုံးခန်း) |
| (ဈ) | မြေနေရာ အမျိုးအစား နှင့် အကျယ်အဝန်း လိုအပ်ချက် | - | ပုဂ္ဂလိက ပိုင် စက်မှုမြေ (၁.၆၀၇ ဧက) ( ၇၀၀၀၀ စတုရန်းပေ ) |
| (ည) | ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း / ဝန်ဆောင်မှု | - | (နောက်ဆက်တွဲဇယား-၄) |
| (ဋ) | ရောင်းချမည့် နည်းစနစ် | - | ပြည်ပ သို့ တင်ပို့ရောင်းချခြင်း - ၉၈% <br> ပြည်တွင်းကျပ်ငွေဖြင့် ရောင်းချခြင်း - ၂% |

## ၁၀။ နှစ်စဉ် ထုတ်လုပ်မှု / ဝန်ဆောင်မှု နှင့် စပ်လျဉ်း သော အချက်အလက်များ-

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | (နောက်ဆက်တွဲဇယား-၅) | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံး ငွေ | (နောက်ဆက်တွဲဇယား-၇) | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံး ငွေ ပမာဏ | (နောက်ဆက်တွဲဇယား-၄) | |
| (ဃ) | ပြည်ပ သို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း / ဝန်ဆောင်မှု တန်ဖိုး | (နောက်ဆက်တွဲဇယား-၄) | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း / ဝန်ဆောင်မှု တန်ဖိုး | (နောက်ဆက်တွဲဇယား-၄) | |

